ကုမ္ပဏီအမည် - Mining World Co., Ltd.

လုပ်ငန်း - ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တု အကြီးစားတူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၂-၉-၂၀၁၄ | | |
| ၂ | PAT (၃၅/၂၀၁၄) (၈-၉-၂၀၁၄) အစည်း အဝေးတင်ပြခြင်း | ၈-၉-၂၀၁၄ | | |
| ၃ | အဆိုပြုလွှာလက်ခံကြောင်းပြန်ကြားခြင်း | ၁၇-၉-၂၀၁၄ | | |
| | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| ၄ | (က) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၁၈-၉-၂၀၁၄ | ၇-၁၀-၂၀၁၄ | |
| ၅ | (ခ) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန | ၁၈-၉-၂၀၁၄ | ၃-၁၀-၂၀၁၄ | |
| ၆ | (ဂ) တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့ရုံး | ၁၈-၉-၂၀၁၄ | ၁၆-၁၀-၂၀၁၄ | |
| ၇ | (ဃ) စီမံကိန်းစိစစ်ရေးနှင့်တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန | ၁၉-၉-၂၀၁၄ | ၃၀-၉-၂၀၁၄ | |
| ၈ | မြေအသုံးပြုခွင့်တင်ပြခြင်း | - | - | အမှတ်(၂)သတ္တုတွင်းလုပ်ငန်းပိုင်မြေ |
| ၉ | ကုမ္ပဏီမှလိုအပ်ချက်ပြင်ဆင်တင်ပြခြင်း | ၃-၁၁-၂၀၁၄ | | |
| ၁၀ | ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန် ကုမ္ပဏီသို့ အကြောင်းကြားစာပေးပို့ခြင်း | ၁၁-၁၁-၂၀၁၄ | | |
| ၁၁ | ကုမ္ပဏီမှလိုအပ်ချက်များပြန်လည်ပြင်ဆင်၍အဆိုပြုချက်(၁၀)စုံပေးပို့ခြင်း | ၁၇-၁၁-၂၀၁၄ | | |
| ၁၂ | ကော်မရှင်အစည်းအဝေး | ၂၇/၂၀၁၄ (၂၈-၁၁-၂၀၁၄) | | |
| ၁၃ | **စုစုပေါင်းကြာမြင့်ရက် (၇၁) ရက်** | | | |

| | |
|---|---|
| ကုမ္ပဏီအမည် | (Mining World) သတ္တုတူးဖော်ခြင်းကမ္ဘာ ကုမ္ပဏီလီမိတက် |
| အဖွဲ့အစည်းပုံသဏ္ဍာန် | မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | ထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့်စနစ်ဖြင့် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုများ တူးဖော်ထုတ်လုပ်ခြင်း လုပ်ငန်း |
| တည်နေရာ | တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာအုပ်စုရှိ ပကာရီဆင်းတွင်းကြီး လုပ်ကွက်ဧရိယာ ၄၀၃.၉၃ ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | အမေရိကန် ဒေါ်လာ ၀.၇၄၅ သန်း အပါအဝင် စုစုပေါင်း ကျပ် သန်း ၈၅၀ |
| ရောင်းချမည့်စနစ် | ပြည်ပသို့ ၁၀၀ % ရောင်းချခြင်း |
| လုပ်ငန်းသက်တမ်း | ထူထောင်မှုကာလ ၁နှစ်အပါအဝင် ထုတ်လုပ်မှု သက်တမ်း ၁၀ နှစ် |
| အရင်းကြေကာလ | ၅ နှစ် နှင့် ၃ လ |
| IRR | ၁၃.၇၀ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ **Cost & Benefit** ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၂.၀၄ သန်း(၁နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ကျပ် ၁.၇၀ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | - | ကျပ် ၃၅.၉၁ သန်း |
| ၄ | ဝင်ငွေခွန် | ကျပ် ၁၈.၆၁ သန်း | ကျပ် ၈၉.၉၇ သန်း |
| ၅ | ဓါတ်သတ္တုခွန် | | ကျပ် ၂၀.၁၃ သန်း |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ကျပ် ၀.၇၅ သန်း |
| ၇ | CSR (1%) | | ကျပ် ၀.၅၆ သန်း |
| ၈ | မြေငှားရမ်းခရငွေ | | ကျပ် ၄.၉၁ သန်း |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၃၅ ဦး<br>ပြည်ပ ၃ ဦး |
| | | ကျပ် ၂၀.၆၅ သန်း | ကျပ် ၁၅၃.၉၃ သန်း |
| | | ၁ း ၇ | |

အကြောင်းအရာ။ **သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂) သတ္တုတွင်းလုပ်ငန်း နှင့် Mining World Co., Ltd. တို့၏ ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် (PSC) စနစ်ဖြင့် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာအုပ်စုရှိ ပကာရီဆင်းတွင်းကြီး သတ္တုလုပ်ကွက်တွင် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုအကြီးစားတူးဖော်ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Mining World Co., Ltd. |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၂) သတ္တုတွင်းလုပ်ငန်း |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | ဖက်စပ်ပြုလုပ်၍ရင်းနှီးမြှုပ်နှံသူ အမည် | - ဦးစိုင်းအောင်သန်း (အဘ-ဦးဂျင်ဂျောင်ကာံ) |
| | အဆိုပြုလုပ်ငန်းအမျိုးအစား | - PSC စနစ်ဖြင့် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တု အကြီးစား တူးဖော်ထုတ်လုပ်မှုလုပ်ငန်း |
| | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း | - တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာအုပ်စုရှိ ပကာရီဆင်းတွင်းကြီး သတ္တုလုပ်ကွက် ဧရိယာ ၄၀၃.၉၃ ဧက(၁.၆၃၅) စတုရန်းကီလိုမီတာ |
| ၂။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ထူထောင်မှုကာလ ၁ နှစ် အပါအဝင် သက်တမ်း ၁၀နှစ် |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ<br>(တစ်နှစ်တစ်စတုရန်းကီလီမီတာ) | - ထူထောင်မှုကာလ ပထမတစ်နှစ်တွင် ကျပ် ၁.၈ သန်း<br>- ထုတ်လုပ်မှုကာလ ဒုတိယတစ်နှစ်တွင် ကျပ် ၃.၀ သန်း |
| ၄။ | တည်ဆောက်ရေးကာလ/ ထူထောင်မှုကာလ | - (၁) နှစ် |
| ၅။ | Signature Bonus | - ကျပ် သိန်း ၃၀၀ |
| ၆။ | ရင်းနှီးမြှုပ်နှံမှုပမာဏ<br>**(US$ ၀.၇၄၅ သန်းအပါအဝင် စုစုပေါင်း ကျပ်သန်း ၈၅၀)** | **ကျပ်(သန်း)**<br>- ငွေပမာဏ ၈၁.၃၂<br>- အဆောက်အဦး ၅၀.၅၀<br>- စက်ပစ္စည်း ၇၁၈.၁၈ (US$ ၀.၇၄၅ သန်း)<br>**- စုစုပေါင်း ၈၅၀.၀၀** |

| | | |
|---|---|---|
| ၇။ | ငွေကြေးအထောက်အထား | - ကုမ္ပဏီ အမည်ဖြင့် United Amara Bank (ကျွဲဆည်ကန် ဘဏ်ခွဲ) ၌ (၁၇-၉-၂၀၁၄) နေ့စွဲရှိ လက်ကျန် ငွေကျပ် (၁၀၀.၀၀၁) သန်း တင်ပြထားရာ သုံးစွဲရန် ငွေကျပ် (၁၃၁.၈၂) သန်း ၏ ၇၅.၈၆ % နှင့် နိုင်ငံခြားငွေအဖြစ် MICB ဘဏ်ရှိ ငွေ လက်ကျန် US$ (၀.၃) သန်း တင်ပြထားရာ သုံးစွဲရန် နိုင်ငံခြား ငွေ US$ (၀.၇၄၅) သန်း ၏ ၄၀.၂၇ % တင်ပြထားကြောင်းစိစစ် တွေ့ရှိရပါသည်။ |
| ၈။ | သတ္တုသိုက်ပမာဏ | - ဘူမိဗေဒ လေ့လာရေးနှင့် ဓာတ်သတ္တု ရှာဖွေရေး ဦးစီးဌာန၏ စိစစ်ချက် အရ ပျမ်းမျှ ခဲမဖြူပါဝင်နှုန်း (၀.၄၇)ပေါင်/ ကုဗ ကိုက်ရှိ Eluvial Deposit (၇၈၆၇၂.၅၀) ကုဗကိုက်မှ Mix Ore concentrate(၁၇၉၈.၇၆) မက်ထရစ်တန်ထွက်ရှိနိုင် ကြောင်း လက်ခံအတည်ပြုစာ တင်ပြထားပါသည်။ |
| ၉။ | ခွဲဝေမှုအချိုး | - အရည်အသွေး အနည်းဆုံး ၆၅% ရှိ ခဲမဖြူ၊ အဖြိုက်နက် နှင့် ရောရာ သတ္တုထုတ်လုပ်မှုစုစုပေါင်း၏ ၄ % ကို နိုင်ငံတော် အတွက် ဓာတ်သတ္တုခွန်အဖြစ် ပေးဆောင်ပြီး ကျန် ခဲမဖြူ၊ အဖြိုက်နက် နှင့် ရောရာသတ္တုများအပေါ် အမှတ်(၂) သတ္တု တွင်းလုပ်ငန်းမှ ၃၀% နှင့် ကုမ္ပဏီမှ ၇၀% အချိုးဖြင့် ခွဲဝေရ ယူမည်ဖြစ်ပါသည်။ |
| ၁၀။ | ရောင်းချမည့်စနစ် | - ၁၀၀ % ပြည်ပသို့ တင်ပို့ ရောင်းချခြင်း (Export on LME price basis) |
| ၁၁။ | နှစ်စဉ်ထုတ်လုပ်မှု | - ၆၀ (မက်ထရစ်တန်) |
| ၁၂။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်(ဆဋ္ဌမနှစ်)<br>ဓာတ်သတ္တုခွန်(၄%)<br>သတလ(၂)ဝေစု(၃၀%)<br>ဝင်ငွေခွန် | <br><br>- US$ ၀.၀၂ သန်း<br>- US$ ၀.၁၅ သန်း<br>- ကျပ် ၁၈.၆၁ သန်း |
| ၁၃။ | ဝန်ထမ်းအင်အား | - ပြည်တွင်း ၃၅ ဦး<br>- ပြည်ပ ၃ ဦး (လိုအပ်မှခန့်ထားပါမည်) |

| | | |
|---|---|---|
| ၁၄။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမနှစ်)<br>အသုံးစရိတ်<br>အသားတင်အမြတ် | - ကျပ် ၃၃၈.၁၅၁ သန်း (US$ ၀.၃၅၁ သန်း)<br>- ကျပ် ၂၈၂.၃၀၈ သန်း<br>- ကျပ် ၅၅.၈၄၃ သန်း |
| ၁၅။ | အရင်းကြေကာလ | - ၅ နှစ် ၃ လ |
| ၁၆။ | အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၃.၇၀ % |
| ၁၇။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - နှစ်စဉ် အသားတင်အမြတ်ငွေအပေါ် ၁% နှင့်ညီမျှသော ငွေကို ရန်ပုံငွေ လျာထားသုံးစွဲမည် ဖြစ်ပါသည်။ |
| ၁၈။ | မီးဘေးကာကွယ်ထားရှိမှု အစီအစဉ် | - မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးစီမံချက်ရေးဆွဲ တင်ပြထားပါသည်။ |
| ၁၉။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - လျှပ်စစ်ဓါတ်အားကို ကိုယ်ပိုင် 400 KVA Generator ၂လုံးဖြင့် တပ်ဆင် အသုံးပြုမည် ဖြစ်ပါသည်။ |
| ၂၀။ | သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ် | - သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ကုမ္ပဏီမှ EIA, SIA, HIA, EMP အစီအစဉ်ကို ရေးဆွဲတင်ပြထားပါသည်။ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးလုပ်ငန်း ဆောင်ရွက်ရန်အတွက် ရင်းနှီးမြှုပ်နှံမှုငွေ ကျပ်သန်း ၈၅၀ ၏ ၀.၂ % ဖြစ်သည့် ကျပ် ၁.၇ သန်းကို ထုတ်လုပ်မှု စတင်သည့်နှစ်မှစ၍ နှစ်စဉ်ရန်ပုံငွေများကို သီးသန့်ငွေစာရင်း ခေါင်းစဉ် ဖွင့်လှစ်၍ ထည့်ဝင်သွားမည်ဖြစ်ကြောင်း တင်ပြထား ပါသည်။ |
| ၂၁။ | **စိစစ်တင်ပြချက်** | (က) Mining World Co., Ltd. သည် လက်ရှိတွင် ခဲမဖြူ အဖြိုက်နက်နှင့် ရောရာသတ္တု အသေးစား တူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်းများ ဖြစ်သော ပကာရီလုပ်ကွက် (ခွင့်ပြုမိန့် အမှတ် ၀၃၆၃/၂၀၁၀၊ ၂၀.၅.၂၀၁၅ ရက်နေ့အထိ)၊ ဆင်းတွင်းကြီး လုပ်ကွက် (ခွင့်ပြုမိန့်အမှတ် ၀၂၄၇/၂၀၁၁) ၁၇-၃-၂၀၁၅ ရက်နေ့အထိ)အား ဆောင်ရွက်လျက်ရှိပြီး ဘူမိဗေဒလေ့လာရေး နှင့် ဓာတ်သတ္တုရှာဖွေရေးဦးစီးဌာန၏ Mix Ore Concentract (၁၇၉၈.၇၆) မက်ထရစ်တန် ထွက်ရှိနိုင် |

| | | |
|---|---|---|
| | | ကြောင်း လက်ခံ အတည်ပြုချက်အရ အကြီးစား လုပ်ကွက် အဖြစ် တူးဖော် ထုတ်လုပ်ခွင့်ပြုပါရန် တင်ပြလာခြင်း ဖြစ်ပါသည်။<br><br>(ခ) အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၄ ခုနှစ် ဇွန်လ ၄ ရက်နေ့ ရက်စွဲပါစာဖြင့် အဆိုပြုလုပ်ငန်းမှာ နိုင်ငံတော်ပိုင်စီးပွားရေး လုပ်ငန်းများ ဥပဒေ ပုဒ်မ ၃ အရ အစိုးရကသာ နိုင်ငံတော်ပိုင်စီးပွားရေး လုပ်ငန်းအဖြစ် လုပ်ကိုင်ဆောင်ရွက်ခွင့်ရှိသည့် လုပ်ငန်းဖြစ်သည့်အတွက် ဥပဒေပုဒ်မ ၄ နှင့်အညီ ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြဆောင်ရွက်သွားရန် နှင့် အစိုးရအဖွဲ့၏ ခွင့်ပြုချက်ရရှိပြီးပါက အဆိုပြုလွှာပြန်လည် တင်ပြပေးပါရန် သတ္တုတွင်းဝန်ကြီးဌာနသို့ အကြောင်းပြန်ကြား ခဲ့ပါသည်။ သို့ဖြစ်ပါ၍ ၂၀၁၄ ခုနှစ် ဇူလိုင်လ ၃၁ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့၏ (၁၅/၂၀၁၄) ကြိမ်မြောက် အစည်းအဝေးမှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် တင်ပြခြင်းကို သဘောတူဆုံးဖြတ်ခဲ့ကြောင်း သတ္တုတွင်းဝန်ကြီးဌာနမှ ပြန်လည်တင်ပြခြင်းဖြစ်ပါသည်။<br><br>(ဂ) အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ ပကာရီကျေးရွာအုပ်စု အုပ်ချုပ်ရေးမှူး၏ကန့်ကွက်ရန်မရှိကြောင်းထောက်ခံချက်၊ ဒေသခံပြည်သူများ၏ ကန့်ကွက်ရန် မရှိကြောင်း ထောက်ခံချက်များ ရရှိပြီးဖြစ်ကြောင်း တင်ပြထားပါသည်။<br><br>(ဃ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာ အမှတ် ၅၁/၂၀၁၄ အရ သဘာဝအရင်းအမြစ် တူးဖော်ထုတ်လုပ်သည့် လုပ်ငန်းများမှာ အကောက်ခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်၊ ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်ပေးရန်မလိုသော ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများတွင် ပါဝင်သည့်အတွက် ယခုတင်ပြလာသော အဆိုပြုလုပ်ငန်းသည် အကောက်ခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်၊ ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်ပေးရန် မလိုသော |

| | | |
|---|---|---|
| | | လုပ်ငန်းဖြစ်ပြီး၊ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် (၅) နှစ် သာ ရရှိနိုင်မည်ဖြစ်ကြောင်း စိစစ်ရပါသည်။<br>(င) သို့ဖြစ်ပါ၍ ပြည်ပမှ တင်သွင်းမည့် လုပ်ငန်းသုံး ယာဉ်ယန္တရားများဖြစ်သည့် Browser (1600 gals) (၁) စီး၊ Dump Track (20-25 Tons) (5)စီး၊ Backhole (၂)စီး နှင့် Bulldozer (၁)စီး အပါအဝင် အမေရိကန်ဒေါ်လာ (၀.၇၄၅)သန်းတန်ဘိုးရှိ စက်ပစ္စည်းများအား အခွန်အကောက်ပေးဆောင်၍ တင်သွင်းရမည် ဖြစ်ပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက- ၅ (သ) / ၀၀၂/ ၂၀၁၄ ( ၆၀ )

ရက်စွဲ၊ ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၂၀ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
## တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂) သတ္တုတွင်းလုပ်ငန်း နှင့် Mining World Co., Ltd. (သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်) တို့၏ ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် (PSC) စနစ်ဖြင့် ခဲမဖြူ၊ အဖြိုက်နက် နှင့် ရောရာသတ္တုအကြီးစား တူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂)သတ္တုတွင်းလုပ်ငန်း နှင့် Mining World Co., Ltd. တို့သည် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာအုပ်စုရှိ ပကာရီဆင်းတွင်းကြီး သတ္တုလုပ်ကွက်ဧရိယာ ၄၀၃.၉၃ ဧက (၁.၆၃၅ စတုရန်းကီလိုမီတာ) ပေါ်တွင် ထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့် (PSC) စနစ်ဖြင့် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တု အကြီးစားတူးဖော် ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သတ္တုတွင်းဝန်ကြီးဌာနမှတဆင့် အဆိုပြုတင်ပြလာပါသည်။

၂။ သတ္တုတွင်းဝန်ကြီးဌာနသည် အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်အတွက် ၂၀၁၄ ခုနှစ် ဇူလိုင်လ ၃၁ ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုအစိုးရအဖွဲ့၏ (၁၅/၂၀၁၄) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေး မှ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာအုပ်စုရှိ ပကာရီဆင်းတွင်းကြီး လုပ်ကွက်ဧရိယာ ၄၀၃.၉၃ ဧက တွင် သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက် သို့ (၁၀) နှစ် သက်တမ်းရှိသော ခဲမဖြူ၊ အဖြိုက်နက်ရောရာသတ္တု အကြီးစားတူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းကို သဘောတူဆုံးဖြတ်ချက် ရရှိပြီးဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန် ဒေါ်လာ ၀.၇၄၅ သန်း အပါအဝင် စုစုပေါင်း ကျပ် သန်း ၈၅၀ ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ ၀.၇၄၅ သန်း တန်ဘိုးရှိ လုပ်ငန်းသုံး ယာဉ်၊ ယန္တရား၊ စက်ပစ္စည်းများအား ပြည်ပမှ တင်သွင်းမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

**စုစုပေါင်းကျပ်(သန်း)**

| | | |
|---|---|---|
| (က) ငွေပမာဏ | ၈၁.၃၂ | |
| (ခ) အဆောက်အဦးတန်ဖိုး | ၅၀.၅၀ | |
| (ဂ) စက်ပစ္စည်းတန်ဖိုး | ၇၁၈.၁၈ | (US$ ၀.၇၄၅ သန်း) |
| **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **၈၅၀.၀၀** | |

၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း (၃၅) ဦး ခန့်ထားမည်ဖြစ်ကြောင်း တင်ပြ ထားပြီး ပြည်တွင်းဝန်ထမ်း(၁) ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ်(၉၀,၀၀၀) ဖြစ်၍ အမြင့်ဆုံးလစာမှာ ကျပ် (၃၅၀,၀၀၀) ဖြစ်ပါသည်။ လိုအပ်မှသာ နိုင်ငံခြားသား ကျွမ်းကျင်ပညာရှင် (၃) ဦး အား အချိန် ပိုင်း ခန့်ထားမည်ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှထွက်ရှိသော အရည်အသွေးအနည်းဆုံး ၆၅ % ရှိ ခဲမဖြူ အဖြိုက်နက် ရောရာ သတ္တုများကို တစ်နှစ် လျှင်တန် ချိန် ၆၀ ထိ ထုတ်လုပ်၍ London Metal Exchange ဈေးနှုန်းဖြင့် ပြည်ပနိုင်ငံများ သို့ ၁၀၀% တင်ပို့ရောင်းချသွားမည်ဖြစ်ပါသည်။ ပုံမှန်နှစ် (၆နှစ်မြောက်)ရှိ ကုမ္ပဏီ၏ ထုတ်လုပ်မှု ရောင်းချမည့်ဈေးနှုန်း နှင့် ဝင်ငွေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (မက်ထရစ်တန်) | တစ်မက်ထရစ်တန် ရောင်းဈေးနှုန်း(US$) | ဝင်ငွေ (US$) |
|---|---|---|---|---|
| (က) | ခဲမဖြူအဖြိုက်နက်နှင့် ရောရာသတ္တု | ၄၀.၃၂ | ၈၇၀၀ | ၃၅၀၇၈၄ |

၆။ ယင်းလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆နှစ်မြောက်)တွင် နိုင်ငံတော်မှရရှိမည့် အကျိုး အမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းအဖြစ်ပါသည်။

| | | |
|---|---|---|
| (က) ဓါတ်သတ္တုခွန် (၄%) | US$ | ၀.၀၂ |
| (ခ) သတလ(၂)ဝေစု(၃၀%) | US$ | ၀.၁၅ |
| (ဂ) ဝင်ငွေခွန် | ကျပ်သန်း | ၁၈.၆၁ |

၇။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၅)နှစ်နှင့်(၃)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၁၃.၇၀ ရာခိုင်နှုန်း ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၉၆၄ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။

၈။ အဆိုပြုလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ကုမ္ပဏီမှရရှိမည့် ဝင်ငွေ၊ အသုံးစရိတ် နှင့် အသားတင်အမြတ် ခန့်မှန်းခြေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည် -

အမေရိကန်တစ်ဒေါ်လာ = ၉၆၄ ကျပ်

| စဉ် | အကြောင်းအရာ | US$ (သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် ကျပ် (သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|---|
| (က) | ဝင်ငွေ | ၀.၃၅၁ | ၃၃၈.၁၅၁ | - | ၃၃၈.၁၅၁ |
| (ခ) | အသုံးစရိတ် | - | - | ၂၈၂.၃၀၈ | ၂၈၂.၃၀၈ |
| (ဂ) | အသားတင်အမြတ် | ၀.၃၅၁ | ၃၃၈.၁၅၁ | (၂၈၂.၃၀၈) | ၅၅.၈၄၃ |

၉။ အဆိုပြုချက်နှင့်အတူ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြုချက်နှင့်အညီ ပြင်ဆင်ထားသည့် သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂)သတ္တုတွင်းလုပ်ငန်း နှင့် Mining World Co., Ltd. တို့ချုပ်ဆိုမည့် လုပ်ငန်းသဘောတူစာချုပ် (PSC စာချုပ်မူကြမ်း) နှင့် လုပ်ငန်းတည်နေရာပြ မြေပုံများကို ပူးတွဲတင်ပြထားပါသည်။ စာချုပ်မူကြမ်းပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) လုပ်ပိုင်ခွင့်ရှိသောလုပ်ကွက်ဧရိယာမှာစုစုပေါင်း ၄၀၃.၉၃ ဧကဖြစ်ပါသည်။**(အပိုဒ်၄-၁)**

(ခ) လုပ်ပိုင်ခွင့်ရှိသော လုပ်ကွက်ကို နိုင်ငံတော်အစိုးရမှ စီမံကိန်းတစ်ခုခုတွင် အသုံးပြုရန် လိုအပ်ခဲ့လျှင် ကန်ထရိုက်တာဖြစ်သူက မိမိလက်ဝယ်ရယူထားသော လုပ်ကွက်ကို အစိုးရသို့ ပြန်လည်အပ်နှံရမည်ဖြစ်ပြီး သင့်လျော်သော သတ္တုလုပ်ကွက်ကို ကန်ထရိုက်တာ နစ်နာမှုမရှိစေရန် နှစ်ဦးနှစ်ဖက် ညှိနှိုင်း ဆောင်ရွက်ရမည်။ **(အပိုဒ် ၄-၂)**

(ဂ) ခွင့်ပြုသည့်ကာလမှာ လုပ်ငန်း စတင်လုပ်ကိုင် ခွင့်ပြုသည့်ရက်မှစ၍ (၁၀) နှစ် ဖြစ်သည်။ သက်တမ်းတိုးလိုပါက မြန်မာ့သတ္တုတွင်း နည်းဥပဒေများနှင့်အညီ တစ်ကြိမ်လျှင် (၅) နှစ် ထက်မပိုသော သက်တမ်းကို သတလ(၂) မှတဆင့် သတ္တုတွင်းဝန်ကြီးဌာနသို့ လျှောက်ထား နိုင်သည်။ **(အပိုဒ်- ၉)**

(ဃ) ထွက်ရှိလာမည့် ခဲမဖြူ အဖြိုက်နက်နှင့်ရောရာသတ္တုတန်ချိန် စုစုပေါင်း၏ ၄ % ကို သတ္တုအနေဖြင့်ဖြစ်စေ၊ London Metal Exchange(LME) ကို အခြေပြုတွက်ချက်ထားသည့် သတ္တုတွင်းဝန်ကြီးဌာနမှ အတည်ပြုထားသောဈေးနှုန်းဖြင့် ရရှိသည့် ငွေတန်ဘိုးဖြင့်ဖြစ်စေ ဓာတ်သတ္တုခွန်အဖြစ် သတ္တုတွင်းဦးစီးဌာနသို့ ပေးဆောင်ရမည်။ **(အပိုဒ် ၁၁-၁)**

(င) ပုံသေမြေငှားရမ်းခ (Dead Rent) အဖြစ် ထူထောင်မှုကာလအတွက် ပထမတစ်နှစ်တွင် တစ်စတုရန်း ကီလိုမီတာလျှင် ကျပ် ၁၈ သိန်းနှုန်း၊ ထုတ်လုပ်မှုကာလအတွက် ဒုတိယတစ်နှစ်တွင် တစ်စတုရန်း ကီလိုမီတာလျှင် ကျပ် ၃၀ သိန်းနှုန်းတို့ဖြင့် သတ္တုတွင်းဝန်ကြီးဌာန၊ သတ္တုတွင်းဦးစီးဌာနသို့ ပေးဆောင်ရမည်။ **(အပိုဒ် ၁၁-၂)**

(စ) တူးဖော်ထုတ်လုပ်ရာမှ ထွက်ရှိလာသော ခဲမဖြူ အဖြိုက်နက်၊ ရောရာသတ္တု စုစုပေါင်း၏ ၄% ကို နိုင်ငံတော်အတွက် ဓါတ်သတ္တုခွန် အဖြစ် ပေးဆောင်ပြီး ကျန် ခဲမဖြူ အဖြိုက်နက်

နှင့် ရောရာသတ္တု ၉၆% အား အမှတ်(၂) သတ္တုတွင်းလုပ်ငန်း မှ ၃၀% နှင့် ကန်ထရိုက်တာ မှ ၇၀% အချိုးကျခွဲဝေယူရမည်။ **(အပိုဒ် ၁၂-၁)**

(ဆ) လုပ်ကွက်အဆိုပြုငွေအဖြစ် (Signature Bonus) ကျပ် ၃၀၀ သိန်း(သိန်းသုံးရာတိတိ) ကို စာချုပ်လက်မှတ် ရေးထိုးသည့်နေ့ရက်တွင် သတလ(၂)သို့ပေးသွင်းရမည်။ **(အပိုဒ်- ၁၇)**

(ဇ) စီမံခန့်ခွဲမှုကော်မတီတွင် အဖွဲ့ဝင် ၅ ဦးပါဝင်ပြီး သတလ (၂) မှ ၃ ဦး နှင့် ကန်ထရိုက်တာမှ အဖွဲ့ဝင် ၂ ဦး ပါဝင်စေလျက် သတလ (၂) မှ ဦးဆောင်ညွှန်ကြားရေးမှူးသည် ဥက္ကဋ္ဌ ဖြစ်စေရမည်။ **(အပိုဒ် ၂၀-၁)**

(ဈ) စာချုပ် လက်မှတ်ရေးထိုးပြီးနောက် ရက်ပေါင်း ၃၀ အတွင်း ဘဏ်အာမခံငွေ ကျပ်သိန်း ၁၀၀ (ကျပ်သိန်းတစ်ရာတိတိ) ကို နိုင်ငံတော်ပိုင် မြန်မာ့စီးပွားရေးဘဏ်တွင် သတလ (၂) အမည် ဖြင့် စာချုပ်သက်တမ်းတစ်လျှောက်ထားရှိရမည်။ **(အပိုဒ် ၂၂-၁)**

၁၀။ ကုမ္ပဏီအနေဖြင့်နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် အခွန်ဥပဒေများအတိုင်းပေးသွင်းရမည့် အခွန် များကိုလည်းကောင်း၊ သတ္တုတွင်းဦးစီးဌာနသို့ ပေးသွင်းရမည့် ပုံသေမြေငှားရမ်းခနှင့် ဓါတ်သတ္တုခွန် များကိုလည်းကောင်း၊ အမှတ်(၂)သတ္တုတွင်းလုပ်ငန်းသို့ ပေးသွင်းရမည့် ခွဲဝေမှု အချိုးများကိုလည်း ကောင်း သတ်မှတ်ကာလအတွင်း အပြည့်အဝ မပျက်မကွက် ပေးသွင်းမည်ဖြစ်ကြောင်း ဝန်ခံကတိပြု ထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘော ထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ (နောက်ဆက်တွဲ-က)**

ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်မှုမရှိကြောင်း၊ ပြည်သူတို့၏ လူမှုစီးပွားကို ထိခိုက်နိုင်မှု မရှိသည့်အပြင် မြို့နယ် ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက်အထောက် အကူဖြစ်စေပါကြောင်း၊ ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်း သုံးစွဲခြင်းအပေါ် ဒေသခံ များက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ ကန့်ကွက်ရန်မရှိပါ ကြောင်း နှင့် တိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့်လည်း ကန့်ကွက်ရန်မရှိကြောင်း သဘော ထားမှတ်ချက် ပြန်ကြားထားပါသည်။

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)**

(၁) သတ္တုတူးဖော်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုများ ကို ရှောင်ရှား နိုင်ရန်အတွက် အဓိကကဏ္ဍ (၄) ခု ဖြစ်သည့် လုပ်ငန်း စီမံကိန်း မူဝါဒချမှတ်ခြင်း၊ သတ္တုတွင်းဖွံ့ဖြိုးမှုလုပ်ငန်းများဆောင်ရွက်ခြင်း၊ လုပ်ငန်းစီမံကိန်း

လည်ပတ်ခြင်းနှင့် သတ္တုတွင်းပိတ်သိမ်းခြင်းတို့တွင် စနစ်တကျစီမံချက်များ ရေးဆွဲချမှတ်ဆောင်ရွက်သွားရန်၊

(၂) ထိုသို့ စီမံချက်ရေးဆွဲရာတွင် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုကို ကာကွယ်နိုင်ရေးအတွက် သတ္တုတူးဖော် ထုတ်လုပ်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် သဘာဝပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှု ရှိ/မရှိ ကြိုတင်လေ့လာ ဆန်းစစ်ခြင်းနှင့် ပျက်စီးမှု မရှိအောင် ဆောင်ရွက်နိုင်မည့် အစီအစဉ်များကို စီမံကိန်းဆောင်ရွက်ရာတွင် စနစ်တကျ ထည့်သွင်း ဆောင်ရွက်သွားနိုင်ရေးအတွက် ဆောင်ရွက်ထားရှိရန် လိုအပ်ကြောင်း၊ မည့်သည့်အတိုင်းအတာအထိ ထိခိုက်ပျက်စီးနိုင်သည်ကို သိရှိရန် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း နှင့် လူမှုရေးထိခိုက်မှုဆန်းစစ်ခြင်း (Environmental and Social Impact Assessment- ESIA) အစီရင်ခံစာကို ရေးဆွဲ တင်ပြရန်၊

(၃) အဆိုပါ လေ့လာဆန်းစစ်တွေ့ရှိချက်များကို အခြေခံ၍ မိမိတို့ တူးဖော်ထုတ်လုပ်မည့် အမြင့်ဆုံးပမာဏ(သို့) အရေအတွက်၊ ရေထု၊ လေထု နှင့် မြေထု ညစ်ညမ်းမှု မဖြစ်အောင်ထိန်းချုပ်မည့် စီမံခန့်ခွဲမှုစနစ်များ၊ စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှုဆိုင်ရာစနစ်များ၊ အသံညစ်ညမ်းမှုမဖြစ်အောင် ထိန်းချုပ်သည့်စနစ်များ၊ အချိန်မှန်စောင့်ကြပ်ကြည့်ရှုသည့် စနစ်များ၊ သတ္တုတွင်း ဧရိယာတဝိုက်တွင် စိမ်းလန်းစိုပြည်ရေးနှင့် လူထု အသိပညာပေး လုပ်ငန်းများ ပါဝင်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး စီမံချက်နှင့် သတ္တုပိတ်သိမ်းချိန်တွင် ဆောင်ရွက်မည့် အစီအစဉ် ရေးဆွဲအကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းမျဉ်း စည်းကမ်းများ နှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(၅) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ပြည်သူလူထု၏ အကြံပြုသဘောထားရယူ ဆောင်ရွက်ရမည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

**(ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ကုမ္ပဏီမှ သဘာဝပတ်ဝန်းကျင် ထိခိုက်မှု လျော့နည်းစေရေး (Environmental Impact Assessment)၊ လူမှုပတ်ဝန်းကျင်ထိခိုက်မှုလျော့နည်းစေရေးဆန်းစစ်ချက် (Social Impact Assessment)၊ ပတ်ဝန်းကျင်ပြည်သူလူထု၏ ကျန်းမာရေးထိခိုက်မှုမရှိစေရေး (Health Impact Assessment) နှင့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရေး စီမံချက် (Environmental**

Management Plan) ကို ရေးဆွဲတင်ပြထားပါသည်။ **သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးလုပ်ငန်း ဆောင်ရွက်ရန်အတွက် ရင်းနှီးမြှုပ်နှံမှုငွေ ကျပ်သန်း ၈၅၀ ၏ ၀.၂ % ဖြစ် သည့် ကျပ် ၁.၇ သန်းကို ထုတ်လုပ်မှု စတင်သည့် နှစ်မှစ၍ နှစ်စဉ် ရန်ပုံငွေများကို သီးသန့်ငွေစာရင်းခေါင်းစဉ်ဖွင့်လှစ်၍ ထည့်ဝင်သွားမည်ဖြစ်ကြောင်း တင်ပြထားပါ သည်။)**

(ဂ) **လျှပ်စစ်စွမ်းအားဝန်ကြီးဌာန (နောက်ဆက်တွဲ-ဂ)**

သတ္တုလုပ်ကွက် ဧရိယာသည် လျှပ်စစ်စွမ်းဝန်ကြီးဌာန၏ နိုင်ငံတော် စီမံကိန်းကြီး များနှင့် လွတ်ကင်းမှုရှိပါကြောင်း ပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ လျှပ်စစ်ဓါတ် အားသုံးစွဲမှု အတွက် 400 KVA Generator ၂ လုံး ကို မိမိအစီအစဉ်ဖြင့် အသုံးပြု မည်ဖြစ်ကြောင်း တင်ပြထားပါသည်။)**

၁၂။ ငွေကြေးအထောက်အထားအဖြစ် Mining World Co., Ltd. အမည်ဖြင့် United Amara Bank (ကျွဲဆည်ကန်ဘဏ်ခွဲ) ၌ (၁၇-၉-၂၀၁၄) နေ့စွဲရှိ လက်ကျန် ငွေကျပ် (၁၀၀.၀၀၁) သန်း တင်ပြထားရာ သုံးစွဲရန် ငွေကျပ် (၁၃၀.၈၂) သန်း ၏ ၇၅.၈၆ % နှင့် နိုင်ငံခြားငွေအဖြစ် MICB ဘဏ်ရှိ ငွေလက်ကျန် US$ (၀.၃) သန်း တင်ပြထားရာ သုံးစွဲရန် နိုင်ငံခြား ငွေ US$ (၀.၇၄၅) သန်း ၏ ၄၀.၂၇ % ရှိကြောင်း တင်ပြထားပါသည်။

၁၃။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်း ဖြစ်ပါကြောင်းနှင့် လုပ်ငန်းအသစ်ဖြစ်ပါကြောင်း၊ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည် ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန် ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပြည်ပမှဝယ်ယူ တင်သွင်းမည့်ပစ္စည်းများအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ စည်းကမ်းချက်များအတိုင်း တင်သွင်းဆောင်ရွက်မည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၄။ အဆိုပြုလုပ်ငန်းအတွက် သတ္တုတူးဖော်ခြင်းကဏ္ဍာ ကုမ္ပဏီလီမိတက်မှ မီးဘေးအန္တရာယ် ကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်များကိုရေးဆွဲတင်ပြထားပါသည်။

၁၅။ CSR အတွက် နှစ်စဉ် Net Profit၏ ၁% သုံးစွဲမည်ဖြစ်ပြီး ပကာရိကျေးရွာ စာကြည့်တိုက်အတွက် ၁၅%၊ ဆေးပေးခန်းများထူထောင်ခြင်းအတွက် ၂၅%၊ လမ်းတံတားများပြုပြင်ပေးခြင်း နှင့် ရေမြောင်းများ ပြုလုပ်ပေးခြင်းအတွက် ၂၀%၊ နေ့ကလေးထိန်းဌာနဖွင့်လှစ်ပေးခြင်းနှင့်မူလတန်းကျောင်းများအားပညာရေး ထောက်ပံ့ငွေပေးခြင်းအတွက် ၂၀% ၊ ပကာရိကျေးရွာနှင့်လူနေရပ်ကွက်လျှပ်စစ်မီးရရှိရေးအတွက် ၂၀% ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၆။ **စိစစ်တင်ပြချက်**

(က) Mining World Co., Ltd. သည် လက်ရှိတွင် ခဲမဖြူ အဖြိုက်နက်နှင့် ရောရာသတ္တု အသေးစား တူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်းများ ဖြစ်သော ပကာရီလုပ်ကွက် (ခွင့်ပြုမိန့် အမှတ် ၀၃၆၃/၂၀၁၀၊ ၂၀.၅.၂၀၁၅ ရက်နေ့အထိ)၊ ဆင်းတွင်းကြီးလုပ်ကွက် (ခွင့်ပြုမိန့် အမှတ် ၀၂၄၇/၂၀၁၁) ၁၇-၃-၂၀၁၅ ရက်နေ့အထိ)အား ဆောင်ရွက်လျက်ရှိပြီး ဘူမိဗေဒ လေ့လာရေး နှင့် ဓာတ်သတ္တုရှာဖွေရေး ဦးစီးဌာန၏ Mix Ore Concentract (၁၇၉၈.၇၆) မက်ထရစ်တန် ထွက်ရှိနိုင်ကြောင်း လက်ခံအတည်ပြုချက်အရ အကြီးစား လုပ်ကွက်အဖြစ် တူးဖော်ထုတ်လုပ်ခွင့်ပြုပါရန် တင်ပြလာခြင်း ဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ၂၀၁၄ ခုနှစ် ဇွန်လ ၄ ရက်နေ့ ရက်စွဲပါစာဖြင့် အဆိုပြုလုပ်ငန်းမှာ နိုင်ငံတော်ပိုင်စီးပွားရေး လုပ်ငန်း များ ဥပဒေ ပုဒ်မ ၃ အရ အစိုးရကသာ နိုင်ငံတော်ပိုင်စီးပွားရေး လုပ်ငန်းအဖြစ် လုပ်ကိုင် ဆောင်ရွက်ခွင့်ရှိသည့် လုပ်ငန်းဖြစ်သည့်အတွက် ဥပဒေပုဒ်မ ၄ နှင့်အညီ ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြဆောင်ရွက်သွားရန် နှင့် အစိုးရအဖွဲ့၏ခွင့်ပြုချက် ရရှိ ပြီးပါက အဆိုပြုလွှာ ပြန်လည်တင်ပြပေးပါရန် သတ္တုတွင်းဝန်ကြီးဌာနသို့ အကြောင်းပြန် ကြားခဲ့ပါသည်။ သို့ဖြစ်ပါ၍ ၂၀၁၄ ခုနှစ် ဇူလိုင်လ ၃၁ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့၏ (၁၅/၂၀၁၄) ကြိမ်မြောက် အစည်းအဝေးမှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် တင်ပြခြင်းကို သဘောတူဆုံးဖြတ်ခဲ့ကြောင်း သတ္တုတွင်းဝန်ကြီးဌာန မှ ပြန်လည်တင်ပြခြင်းဖြစ်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ပကာရီကျေးရွာအုပ်စု အုပ်ချုပ်ရေးမှူး၏ ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံချက်၊ ဒေသခံပြည်သူများ၏ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံချက်များ ရရှိပြီးဖြစ်ကြောင်း တင်ပြထားပါသည်။

(ဃ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာ အမှတ် ၅၁/၂၀၁၄ အရ သဘာဝအရင်းအမြစ် တူးဖော်ထုတ်လုပ်သည့်လုပ်ငန်းများမှာ အကောက်ခွန် ကင်းလွတ် ခွင့်နှင့် သက်သာခွင့်၊ ကုန်သွယ်လုပ်ငန်းခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့် ပေးရန်မလို သော ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းများတွင် ပါဝင်သည့်အတွက် ယခုတင်ပြလာသော အဆိုပြု လုပ်ငန်းသည် အကောက်ခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်၊ ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်နှင့်သက်သာခွင့် ပေးရန်မလိုသော လုပ်ငန်းဖြစ်ပြီး၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဝင်ငွေခွန် ကင်းလွတ်ခွင့် (၅) နှစ်သာ ရရှိနိုင်မည် ဖြစ်ကြောင်း စိစစ်ရပါသည်။

(င) သို့ဖြစ်ပါ၍ ပြည်ပမှ တင်သွင်းမည့် လုပ်ငန်းသုံး ယာဉ်ယန္တရားများ ဖြစ်သည့် Browser (1600 gals) (၁) စီး၊ Dump Track (20-25 Tons) (5)စီး၊ Backhole (၂)စီး နှင့် Bulldozer (၁)စီး အပါအဝင် အမေရိကန်ဒေါ်လာ (၀.၇၄၅) သန်း တန်ဖိုးရှိ စက်ပစ္စည်းများအား အခွန်အကောက်ပေးဆောင်၍ တင်သွင်းရမည် ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂) သတ္တုတွင်းလုပ်ငန်း နှင့် Mining World Co., Ltd. တို့မှ ထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့် (PSC) စနစ်ဖြင့်တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာအုပ်စုရှိ ပကာရီဆင်းတွင်းကြီး သတ္တုလုပ်ကွက် ဧရိယာ ၄၀၃.၉၃ ဧက ပေါ်တွင် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုများ တူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုချက်တင်ပြခြင်းကိစ္စအပေါ် ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ

ရုံးလက်ခံ




**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**တနင်္သာရီတိုင်းဒေသကြီး**

စာအမှတ်၊ ၆၅၃၃ /၇၇၁/၇-၇၁/အဖရ(တနင်္သာရီ)
ရက် စွဲ ၊ ၂၀၁၄ ခုနှစ် ၊ အောက်တိုဘာလ ၁၄ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

M-0116
16.10.14

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာသည့်ကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈.၉.၂၀၁၄) ရက်စွဲပါ စာအမှတ်၊ ရက-၅(သ)/၀၀၂/ ၂၀၁၄ (၄၉)

၁။ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာအုပ်စု၊ ပကာရီဆင်းတွင်းကြီး သတ္တုလုပ်ကွက် ဧရိယာ(၄၀၃.၉၃)ဧကတွင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ် (Production Sharing Contract)ဖြင့် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုအကြီးစား ထုတ်လုပ်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးစိုင်းအောင်သန်း (အဘ- ဦးဂျင်ကျောင်ကံ) (သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်)မှ သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂)သတ္တုတွင်းလုပ်ငန်းမှ တစ်ဆင့် အဆိုပြုချက်တင်ပြလာမှုအပေါ် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခဲ့ပါသည်။

၂။ အထက် အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်မှုမရှိကြောင်း၊ ပြည်သူတို့၏ လူမှုစီးပွားကို ထိခိုက်နိုင်မှုမရှိသည့်အပြင် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက်အထောက်အကူဖြစ်စေပါကြောင်း၊ ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်းသုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ ကန့်ကွက်ရန်မရှိကြောင်းနှင့် တိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့်လည်း ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(တင်သိန်း၊ အတွင်းရေးမှူး)

မိတ္တူကို
သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်
လက်ခံစာတွဲ/ မျှောစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

MPF-8126
9.10.14

စာအမှတ် ၂/၂၂၀(ခ)(ဖ)/( ၇၅၈၂ /၂၀၁၄)
ရက်စွဲ ၂၀၁၄ ခုနှစ်၊အောက်တိုဘာလ ၇ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်တင်ပြခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၉-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက-၅(သ)/၀၀၂/၂၀၁၄(၅၀)

၁။ သတ္တုတွင်းဝန်ကြီးဌာန ၊ အမှတ်(၂) သတ္တုတွင်းလုပ်ငန်းနှင့် Mining World Co., Ltd (သတ္တုတူးဖော်ခြင်း ကမ္ဘာကုမ္ပဏီလီမိတက်) တို့သည် တနင်္သာရီတိုင်းဒေသကြီး ၊ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ် ၊ ပကာရီဆင်းကျေးရွာအုပ်စု ၊ ပကာရီဆင်းတွင်းကြီး သတ္တုလုပ်ကွက်ဧရိယာ (၄၀၃.၉၃)ဧကတွင် ထုတ်လုပ်မှုပေါ်ခွဲဝေခံစားသည့်စနစ်(Production Sharing Contract)ဖြင့် ခဲမဖြူ ၊ အဖြိုက်နက်နှင့် ရောရာသတ္တုအကြီးစား ထုတ်လုပ်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီးဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန် အဆိုပြုချက်၊ သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားချက်၊ နိုင်ငံတော်သမ္မတရုံးမှ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန် ညွှန်ကြားချက်၊ ပကာရီကျေးရွာအုပ်စုအုပ်ချုပ်ရေးမှူး၏ ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံချက်၊ ရင်းနှီးမြှုပ်နှံမှုကာလမှာ(၁၀)နှစ်သတ်မှတ်ထားပြီး သတ္တုသိုက်အခြေအနေပေါ်မူတည်၍ သက်တမ်းတိုးခွင့်ကို တင်ပြသွားမည်ဖြစ်ကြောင်း ၊ သတ္တုတွင်းလုပ်ကွက်၏ ဧရိယာအကျယ်အဝန်းနှင့် ပုံသဏ္ဌာန်ပြမြေပုံမိတ္တူ၊ခဲမဖြူ အဖြိုက်နက်နှင့် ရောရာသတ္တုများကို တစ်နှစ်လျှင်တန်ချိန်(၆၀)ထိထုတ်လုပ်၍ ပြည်ပသို့တင်ပို့ရောင်းချမည်ဖြစ်ကြောင်း၊ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ အမှတ်(၂)သတ္တုတွင်းနှင့် ကုမ္ပဏီတို့အကြား ထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့် သဘောတူစာချုပ်၊ ဟင်းလင်းဖွင့်သတ္တုတူးဖော်ရေးစနစ်နှင့် သတ္တုပါဝင်သည့် မြေစာများကို ကုန်ကြမ်းအဖြစ် ရယူသွားမည်ဖြစ်ကြောင်း၊ လျှပ်စစ်ဓါတ်အားအတွက် (၄၀၀ KVA Generator) ၂ လုံးသုံးစွဲမည်ဖြစ်ကြောင်း ၊ မီးဘေးကြိုတင်ကာကွယ်ရေးအစီအစဉ်၊ ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းများ၊ သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးလုပ်ငန်းများအတွက် ဆောင်ရွက်မည့် လုပ်ငန်းစီမံချက်နှင့် စီမံကိန်းဆောင်ရွက်ရာတွင် လူမှုဘဝနှင့် သဘာဝပတ်ဝန်းကျင်များ ထိခိုက်ယုတ်လျော့ပျက်စီးမှု မရှိစေရန်အတွက် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးကိစ္စများနှင့် ပတ်သက်သည့် ကျွမ်းကျင်ပညာရှင်များ၏ အကြံဉာဏ်နှင့် အကူအညီများကို ရယူဆောင်ရွက်သွား

မည်ဖြစ်ကြောင်း၊ လုပ်ငန်းလည်ပတ်ခြင်းမှရရှိမည့် အသားတင်အမြတ်ငွေမှ(၁%)ကို(Corporate Social Responsibility – CSR) ရန်ပုံငွေအဖြစ် သုံးစွဲမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ သတ္တုတူးဖော်ထုတ်လုပ်ရာတွင် တည်ဆောက်ရေးလုပ်ငန်းများနှင့် တူးဖော်ရေးအတွက် မြေနေရာကျယ်ပြန့်စွာ အသုံးပြုခြင်း ၊ အပေါ်ယံမြေလွှာများ ဖယ်ရှားရခြင်း ၊ လွန်တူးဖော်ခြင်း၊ မိုင်းခွဲခြင်း ၊သတ္တုပါမြေစာများ စုပုံထားရှိခြင်း ၊ အဆိပ်သင့်နိုင်သည့် ဓါတုဗေဒစွန့်ပစ်ပစ္စည်းများ စနစ်တကျမစွန့်ပစ်ခြင်းစသည်တို့ကြောင့် လူမှုရေး၊ ကျန်းမာရေးနှင့် ပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှုများဖြစ်ပေါ်နိုင်ပါသည်။အဆိုပြုလုပ်ငန်းသည် မြေပေါ်မြေအောက် သတ္တုတူးဖော်ရေးစနစ်များအသုံးပြုမည်ဖြစ်ခြင်း၊ ယမ်းသုံး၍မိုင်းခွဲခြင်း၊ စက်ယန္တရားကြီးများ အသုံးပြုဆောင်ရွက်မည့် အကြီးစားသတ္တုတူးဖော်သည့် လုပ်ငန်းဖြစ်ခြင်းကြောင့် ပတ်ဝန်းကျင်နှင့် ပြည်သူတို့၏ ကျန်းမာရေးကို ထိခိုက်မှုများရှိနိုင်ပါ သည်။

၄။ သို့ဖြစ်ပါ၍ သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် Mining World Co., Ltd ၏ ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ် (Production Sharing Contract) ဖြင့် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုအကြီးစား ထုတ်လုပ်မှုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်းဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်-

(က) သတ္တုတူးဖော်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှုများကိုရှောင်ရှားနိုင်ရန်အတွက် အဓိကကဏ္ဍ(၄)ခုဖြစ်သည့် လုပ်ငန်းစီမံကိန်းမူဝါဒချမှတ်ခြင်း ၊ သတ္တုတွင်းဖွံ့ဖြိုးမှုလုပ်ငန်းများ ဆောင်ရွက်ခြင်း ၊ လုပ်ငန်းစီမံကိန်းလည်ပတ်ခြင်းနှင့် သတ္တုတွင်းပိတ်သိမ်းခြင်းတို့တွင် စနစ်တကျ စီမံချက်များရေးဆွဲချမှတ်ဆောင်ရွက်သွားရန်၊

(ခ) ထိုသို့စီမံချက်ရေးဆွဲရာတွင် ပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှုကို ကာကွယ်နိုင်ရေးအတွက်သတ္တုတူးဖော်ထုတ်လုပ်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် သဘာဝပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုရှိ/မရှိ ကြိုတင်လေ့လာဆန်းစစ်ခြင်းနှင့် ပျက်စီးမှုမရှိအောင် ဆောင်ရွက်နိုင်မည့် အစီအစဉ်များကို စီမံကိန်းဆောင်ရွက်ရာတွင် စနစ်တကျထည့်သွင်းဆောင်ရွက်သွားနိုင်ရေးအတွက် ဆောင်ရွက်ထားရှိရန် လိုအပ်ပါသည်။ ထို့ကြောင့်မည်သည့်အတိုင်းအတာထိ ထိခိုက်ပျက်စီးနိုင်သည်ကို သိရှိရန်ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် လူမှုရေးထိခိုက်မှု ဆန်းစစ်ခြင်း (Environmental and Social Impact Assessment-ESIA) အစီရင်ခံစာကို ရေးဆွဲတင်ပြရန်၊

(ဂ) အဆိုပါလေ့လာဆန်းစစ် တွေ့ရှိချက်များကိုအခြေခံ၍ မိမိတို့တူးဖော် ထုတ်လုပ်မည့် အမြင့်ဆုံးပမာဏ (သို့)အရေအတွက်၊ ရေထု၊ လေထုနှင့် မြေထုညစ်ညမ်းမှုမဖြစ်အောင်ထိန်းချုပ်မည့် စီမံခန့်ခွဲမှုစနစ်များ ၊ စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှုဆိုင်ရာစနစ်များ ၊အသံညစ်ညမ်းမှုမဖြစ်အောင် ထိန်းချုပ်သည့်စနစ်များ ၊ အချိန်မှန် စောင့်ကြပ်ကြည့်ရှုသည့် စနစ်များ ၊ သတ္တုတွင်းဧရိယာ တစ်ဝိုက်တွင် စိမ်းလန်းစိုပြည်ရေးနှင့်

လူထုအသိပညာပေး လုပ်ငန်းများပါဝင်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက်နှင့်သတ္တုပိတ်သိမ်းချိန်တွင် ဆောင်ရွက်မည့် အစီအစဉ်ရေးဆွဲ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ပြည်သူလူထု၏အကြံပြုသဘောထားရယူ ဆောင်ရွက်ရန်။

၅/၁၀

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(မျိုးညွန့်၊ ရုံး အ ဖွဲ့ မှူး)

မိတ္တူ-
- သတ္တုတွင်းဝန်ကြီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

NPT-1592
2-10-14

M-0100
3.10.14



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

စာအမှတ်၊ ၁၅၀ - လျှပ်စစ် ၁(၂)/ ၁၂၈၁၁ /၂၀၁၄

ရက်စွဲ ၊ ၂၀၁၄ ခုနှစ် ၊ အောက်တိုဘာလ ၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၉-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက-၅(သ)/၀၀၂/၂၀၁၄ (၅၁)

၁။ သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် Mining World Co., Ltd တို့သည် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီဆင်းကျေးရွာအုပ်စု၊ ပကာရီဆင်းတွင်းကြီး သတ္တုလုပ်ကွက်ဧရိယာ(၄၀၃.၉၃)ဧကတွင် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တု အကြီးစားထုတ်လုပ်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုနိုင်ရန် အဆိုပြုတင်ပြလွှာတင်ပြထားခြင်းနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် (MIC) မှ အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် တည်နေရာသည် လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ နိုင်ငံတော်စီမံကိန်းကြီးများနှင့် လွတ်ကင်းမှုရှိ/မရှိ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ သို့ဖြစ်ပါ၍ အဆိုပါသတ္တုလုပ်ကွက်ဧရိယာသည် စိစစ်ချက်အရ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ နိုင်ငံတော်စီမံကိန်းကြီးများနှင့် လွတ်ကင်းမှုရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး( )

( မင်းသော်၊ ရုံးအဖွဲ့မှူး )

မိတ္တူကို -

တင်ပြ/လက်ခံ

ပုံစံ (၄)
ပူးတွဲ(၁)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သတ္တုတွင်းဝန်ကြီးဌာန
ဝန်ကြီးရုံး
ဓာတ်သတ္တုအသေးစားထုတ်လုပ်ရန်ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ ၀၂၄၇ / ၂၀၁၁ (သက်တမ်းတိုး) ရက်စွဲ။ ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ ၃၀ ရက်။

အောက်ဖော်ပြပါ အဖွဲ့အစည်းအား မြန်မာ့သတ္တုတွင်းဥပဒေအရ အောက်ပါအချက်အလက်များနှင့်အညီ ဓာတ်သတ္တုအသေးစားထုတ်လုပ်ရန်ခွင့်ပြုလိုက်သည် -

၁။ ခွင့်ပြုမိန့်ရရှိသူ၏

(က) အမည်နှင့် နိုင်ငံသားစိစစ်ရေးကတ်ပြားအမှတ်-

(ခ) အဖွဲ့အစည်းအမည်နှင့် - သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်
အဖွဲ့အစည်းမှတ်ပုံတင်အမှတ် - ၅၆၆/၂၀၀၇-၂၀၀၈

(ဂ) ဆက်သွယ်ရန်နေရပ်လိပ်စာ - အမှတ်(၄၃၄)၊၇၆လမ်းနှင့်၃၂လမ်းကြား၊
တယ်လီဖုန်းအမှတ်၊ ဖက်(စ်) အမှတ် ချမ်းအေးသာစည်မြို့နယ် ၊ မန္တလေးတိုင်းဒေသကြီး
တဲလက်(စ်) အမှတ် - ဖုန်း - ၀၉၂၀၁၈၅၆၂၀၉၈၇၁၄၁၄၀

၂။ ခွင့်ပြုဧရိယာ၏

(က) တည်နေရာ (ကျေးရွာ၊ မြို့နယ်၊ - ဆင်းတွင်းကြီးလုပ်ကွက်၊ ပကာရီကျေးရွာအုပ်စု ၊ထားဝယ်မြို့နယ်၊
ခရိုင်၊ ပြည်နယ်/တိုင်းဒေသကြီး) - ထားဝယ်ခရိုင်၊ တနင်္သာရီတိုင်းဒေသကြီး

(ခ) အကျယ်အဝန်း (စတုရန်းကီလိုမီတာ) - ၄၉.၀၀ ဧက( ၀.၁၉၈ စတုရန်းကီလိုမီတာ)

(ဂ) နယ်နိမိတ်သတ်မှတ်ချက် - မြေပုံညွှန်း-၉၅ ဂျေ/၈အို(၃၀၁၆၀၁၊၃၀၉၅၉၉၊၃၀၈၅၉၆၊၃၀၀၅၉၈)
(ခွင့်ပြုမိန့်အမှတ်၊ ၀၂၄၇/၂၀၁၁ တွင် ပူးတွဲမြေပုံပါ အကျယ်အဝန်း အတိုင်း)

၃။ ခွင့်ပြုဧရိယာ၏နယ်မြေ - ထားဝယ်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
အုပ်ချုပ်မှုဆိုင်ရာအဖွဲ့အစည်း -

၄။ တစ်ဆင့်သွားလာဝင်ထွက်ခွင့် - ထားဝယ်မြို့နယ်

၅။ ခွင့်ပြုသည့်ဓာတ်သတ္တုအမျိုးအစား - ခဲမဖြူအဖြိုက်နက်နှင့်ရောရာသတ္တု

၆။ ခွင့်ပြုသည့်ဓာတ်သတ္တုတူးဖော်မှုနှင့် - ဟင်းလင်းဖွင့်တူးဖော်ခြင်း၊ မြေအောက်တူးဖောက်ခြင်း၊
ဆင့်တက်ပြုပြင်မှုနည်းစနစ် - အမှတ်(၂)သတ္တုတွင်းလုပ်ငန်းမှသဘောတူခွင့်ပြုသောနည်းစနစ်
နှင့် မြန်မာ့သတ္တုတွင်းဥပဒေပုဒ်မ ၂(ည)ပါအတိုင်း

၇။ ခွင့်ပြုသက်တမ်းကာလ - ပထမအကြိမ်သက်တမ်းတိုး ( ၁ ) နှစ်

၈။ စတင်လုပ်ကိုင်ခွင့်ပြုသည့်ရက်စွဲ - ၁၈ . ၃ . ၂၀၁၄

၉။ ခွင့်ပြုမိန့်ကုန်ဆုံးသည့်ရက်စွဲ - ၁၇ . ၃ . ၂၀၁၅

၁၀။ ပုံသေမြေငှားရမ်းခ (Dead Rent) - တစ်စတုရန်းကီလိုမီတာလျှင်တစ်နှစ် ၃၀၀၀၀၀ဝိ/နှုန်း ပေးဆောင်ရန်

၁၁။ ဓာတ်သတ္တုခွန် - ၄ %

၁၂။ စည်းကမ်းချက်များ - တစ်ဖက်ပါစည်းကမ်းချက်များကိုတိကျစွာလိုက်နာရမည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
သတ္တုတွင်းဝန်ကြီးဌာန
(သန်းထွန်းအောင်၊ဒုတိယဝန်ကြီး)

## စည်းကမ်းချက်များ

၁။ ဓာတ်သတ္တုထုတ်လုပ်ရန် ခွင့်ပြုမိန့်ရရှိသူသည်-

(က) ခွင့်ပြုဧရိယာသို့ဥပဒေနှင့်အညီ ဝင်ရောက်လုပ်ကိုင်ခွင့်ရှိသည်။

( ခ ) ဓာတ်သတ္တုထုတ်လုပ်ခြင်းလုပ်ငန်းမစမီ နယ်မြေအုပ်ချုပ်ရေးဆိုင်ရာ အဖွဲ့အစည်းသို့ သတင်းပို့အစီရင်ခံရမည်။

( ဂ ) မိမိအားတရားဝင်လုပ်ကိုင်ခွင့်ပြုထားသောဧရိယာအတွင်း(ခွင့်ပြုဧရိယာနယ်နမိတ် အနားသတ်မျဉ်းမှ အောက်သို့ တည့်မတ်စွာဆွဲသည့် ဒေါင်လိုက်မျဉ်းများအတွင်း) ၌သာ တူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်းကို လုပ်ကိုင်ရမည်။

(ဃ ) မိမိအား တရားဝင်လုပ်ကိုင်ခွင့်ပြုထားသော လုပ်ကွက်ကိုအခြားမည်သူသို့မဆို ကိုယ်စားလှယ်အဖြစ်လုပ်ကိုင်စေခြင်းမှ အပ ဝန်ကြီးဌာန၏ ခွင့်ပြုချက်မရရှိဘဲ လွှဲပြောင်းပေးခြင်း၊ ပြန်လည်ရောင်းချခြင်းမပြုလုပ်ရ။

( င ) တူးဖော်ထုတ်လုပ်ခွင့်ပြုထားသည့် နယ်မြေဒေသလုပ်ကွက်အတွင်းမှ ခွင့်ပြုထားသည့် ဓာတ်သတ္တုကိုသာ ခွင့်ပြုထားသည့် နည်းစနစ်အတိုင်း တူးဖော်ထုတ်လုပ်ရမည်။ အခြားမည်သည့် စီးပွားရေးလုပ်ငန်းကိုမျှ လုပ်ကိုင်ခွင့်မပြု။

( စ ) လုပ်ကိုင်ခွင့်ပြုထားသည့် နယ်မြေဒေသရှိ လုပ်ကွက်အတွင်း တူးဖော်ခွင့်ပြုထားသည့် ဓာတ်သတ္တုမှအပ အခြားဓာတ်သတ္တုများနှင့် ရှေးဟောင်းယဉ်ကျေးမှု အမွေအနှစ်ပစ္စည်းများ တွေ့ရှိပါက ဦးစီးဌာနသို့ မပျက်မကွက်ချက်ချင်းအကြောင်းကြားရမည်။

( ဆ) ခွင့်ပြုမိန့်ပါ ဓာတ်သတ္တုနှင့်စပ်လျဉ်း၍ တူးဖော်ရရှိမှု ၊ရောင်းချမှုနှင့် လက်ကျန်ပမာဏတို့ကို သတ္တုတွင်းဦးစီးဌာနသို့ သတ်မှတ်ပုံစံဖြင့် လစဉ်အစီရင်ခံစာ ပေးပို့ရမည်။

( ဇ ) တူးဖော်ထုတ်လုပ်ရရှိသည့် ဓာတ်သတ္တုများကို-

(၁) မြန်မာကျပ်ငွေဖြင့်ရောင်းချပါကသတ်မှတ်စည်းကြပ်သည့်ဓာတ်သတ္တုခွန်ကို မြန်မာငွေဖြင့်ပေးဆောင်ရမည်။

(၂) နိုင်ငံခြားငွေဖြင့်ရောင်းချပါက သတ်မှတ်စည်းကြပ်သည့် ဓာတ်သတ္တုခွန်ကို သတ်မှတ်သည့် နိုင်ငံခြားငွေဖြင့် ပေးဆောင်ရမည်။

( ဈ ) တူးဖော်ထုတ်လုပ်မည့် လုပ်ကွက်တွင်လုပ်ငန်းလုပ်ကိုင်မည့် အလုပ်သမားစာရင်းကို အမည်၊ အသက်၊ နိုင်ငံသားစိစစ်ရေးကတ်အမှတ်၊နေရပ်လိပ်စာအပြည့်အစုံပြုစု၍ လုပ်ကွက်ရှိ လုပ်ငန်းရုံးတွင်ထားရှိရမည်။ဓာတ်ပုံမိတ္တူတစ်စောင်ကို သတ္တုတွင်းဦးစီးဌာနသို့ ပေးပို့တင်ပြ ရမည်။ (အလုပ်သမားစာရင်း အပြောင်းအလဲရှိတိုင်း ချက်ချင်းတင်ပြရမည်။)

( ည) လုပ်ငန်းခွင်ဆွင် အပြင်းအထန်ထိခိုက်ဒဏ်ရာရရှိခြင်း၊ ထိခိုက်သေဆုံးခြင်းနှင့် ဥပဒေ၊ နည်းဥပဒေအရ သတင်းပို့ရမည့် မတော်တဆမှုများ ဖြစ်ပွားပါက သတ္တုတွင်းစစ်ဆေးရေးအရာရှိချုပ်ထံ ဥပဒေ၊နည်းဥပဒေတို့နှင့်အညီ အကြောင်းကြားရမည်။ အလုပ်သမားလျော်ကြေးဥပဒေနှင့် အကျုံးဝင်သည့် ထိခိုက်ဒဏ်ရာရရှိခြင်း၊သေဆုံးခြင်းဖြစ်ပေါ်ပါက ခွင့်ပြုမိန့်ရရှိသူမှ လျော်ကြေး ပေးရန် တာဝန်ယူ ရမည်။ ထို့ပြင်ခွင့်ပြုမိန့်ရရှိသူသည် အလုပ်သမားများနှင့်ပတ်သက်၍ ပြဋ္ဌာန်းထားသည့် တည်ဆဲ ဥပဒေများ၊ နည်းဥပဒေများ ၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်ရမည်။

( ဋ ) သစ်တောနယ်မြေ သို့မဟုတ် သစ်တောဖုံးလွှမ်းလျက်ရှိသော ပြည်ထောင်စုအစိုးရက စီမံခန့်ခွဲခွင့်ရှိသည့်မြေတွင် သစ်ပင်ခုတ်လှဲခြင်း၊မြေကြီးတူးဆွ ခြင်းစသည့် တစ်စုံတစ်ရာလုပ်ကိုင်လိုပါကသက်ဆိုင်ရာသစ်တောဦးစီးဌာန၏ ကြိုတင်ခွင့်ပြုချက်ကို ရယူရမည်။

( ဌ ) မိမိအားခွင့်ပြုထားသည့်ဧရိယာအား နယ်နိမိတ်တိုင်းတာသတ်မှတ်စိုက်ထူခြင်းကို မိမိကုန်ကျစရိတ်ဖြင့် ဆောင်ရွက်ထားရှိရမည်။

( ဍ ) ဓာတ်သတ္တုတူးဖော်ထုတ်လုပ်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် ထိခိုက်မှုမဖြစ်စေရန် စီမံဆောင်ရွက်ရမည်။

( ဎ ) သက်ဆိုင်ရာအခွင့်အာဏာရှိသူများမှ စိစစ်သည့်အခါ ပြသနိုင်ရန် ခွင့်ပြုမိန့်ဓာတ်ပုံမိတ္တူကို လုပ်ငန်းခွင်တွင်ချိတ်ဆွဲထားရှိပြီး မူရင်းကို လုံခြုံစွာ ထိန်းသိမ်းထားရှိရမည်။ဆက်လက်လုပ်ကိုင်လိုပါက သက်တမ်းမကုန်မီ (၃) လကြိုတင်လျှောက်ထားရမည်။

( ဏ) ဥပဒေအရ ပေးဆောင်ရမည့် ပုံသေမြေငှားရမ်းခ ( Dead Rent) ကို ပေးသွင်းရန် သတ်မှတ်သည့်နေ့မှတစ်လအတွင်းဦးစီးဌာနသို့ ပေးသွင်း ရမည်။ ဆက်လက်လုပ်ကိုင်လိုပါက သက်တမ်းမကုန်ဆုံးမီ (၃)လကြိုတင်၍ လျှောက်ထားရမည်။

( တ ) ဝန်ကြီးဌာန/ဦးစီးဌာနက အခါအားလျော်စွာ သတ်မှတ်သည့် စည်းကမ်းချက်များကို လိုက်နာရမည်။

၂။ ခွင့်ပြုမိန့်ရရှိသူသည် အထက်ပါစည်းကမ်းချက်များအပြင် ဥပဒေ၊နည်းဥပဒေ၊ အမိန့်နှင့် ညွှန်ကြားချက်များကိုလည်းလိုက်နာရမည်။ ထို့အပြင် အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်တို့ ဆင်းတွင်းကြီးလုပ်ကွက်တွင် ခဲမဖြူ-အဖြိုက်နက်နှင့်ရောရာသတ္တုထုတ်လုပ်မှု အပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် ချုပ်ဆိုသည့် စာချုပ်ပါ စည်းကမ်းချက်များကိုလည်းလိုက်နာရမည်။

၃။ ဤခွင့်ပြုမိန့်အား သတ္တုတွင်းဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ၏ (၂၉/၂၀၁၄) ကြိမ်မြောက်အစည်းအဝေးမှ သဘောတူခွင့်ပြုချက်အရ ထုတ်ပေးခြင်း ဖြစ်သည်။

၄။ ဤခွင့်ပြုမိန့်အား ထုတ်ပေးသည့်နေ့မှစ၍ (၃)လအတွင်းလုပ်ငန်းများ ဆက်လက်ဆောင်ရွက်ခြင်းမပြုပါက အာမခံငွေအား နိုင်ငံတော်မှ သိမ်းယူမည်ဖြစ်သည့်အပြင် ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟုမှတ်ယူရမည်။

၅။ ဤခွင့်ပြုမိန့်အရ ခွင့်ပြုထားသောလုပ်ကွက်ဧရိယာအား နိုင်ငံတော်အတွက်လိုအပ်ပါက ခွင့်ပြုကာလအတွင်းပြန်လည်သိမ်းယူခွင့်ရှိရမည်။

၆။ ဤခွင့်ပြုမိန့်အား သတ်မှတ်စည်းကမ်းဘောင်အတွင်း မြေပိုင်ဆိုင်မှုနှင့် သက်ဆိုင်သော လုပ်ငန်းလုပ်ကိုင်ခွင့်နှင့် သက်ဆိုင်သော အငြင်းပွားမှုများ၊ စောဒကတက်မှုများ၊ သဘာဝပတ်ဝန်းကျင် ထိခိုက်ပျက်စီးစေမှုနှင့် ပတ်သက်သော တိုင်ကြားချက်များ ၊ အငြင်းပွားမှုများ ဖြစ်ပွားပါက ကုမ္ပဏီမှသာ တာဝန်ယူဖြေရှင်းရန်၊ မဖြေရှင်းနိုင်ပါက လုပ်ကိုင်ခွင့် ရပ်ဆိုင်းခြင်း ပေးသွင်းထားသည့် အခွန်အခနှင့် အခြား ပေးသွင်းမှုများ သိမ်းယူခြင်း၊ လုပ်ကွက်ပြန်လည်သိမ်းယူခြင်း ခံရမည်ကို သဘောတူဝန်ခံကတိပြုရမည်။

၇။ ဤခွင့်ပြုမိန့်အရ ခွင့်ပြုထားသောလုပ်ကွက်အတွင်းနိုင်ငံခြားသားများအားခွင့်ပြုချက်မရှိဘဲတရားမဝင်အသုံးပြုခြင်းမပြုရန်လိုက်နာရမည်။

ပုံစံ (၄)
ပူးတွဲ(၁)






**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**သတ္တုတွင်းဝန်ကြီးဌာန**
**ဝန်ကြီးရုံး**
**ဓာတ်သတ္တုအသေးစားထုတ်လုပ်ရန်ခွင့်ပြုမိန့်**

ခွင့်ပြုမိန့်အမှတ်၊ ၀၃၆၃/၂၀၁၀ (သက်တမ်းတိုး) ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ ဇွန်လ ၂၅ ရက်။

အောက်ဖော်ပြပါ အဖွဲ့အစည်းအား မြန်မာ့သတ္တုတွင်းဥပဒေအရ အောက်ပါအချက်အလက်များနှင့်အညီ ဓာတ်သတ္တုအသေးစားထုတ်လုပ်ရန်ခွင့်ပြုလိုက်သည် -

၁။ ခွင့်ပြုမိန့်ရရှိသူ၏

(က) အမည်နှင့် နိုင်ငံသားစိစစ်ရေးကတ်ပြားအမှတ်-

(ခ) အဖွဲ့အစည်းအမည်နှင့် - သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်
အဖွဲ့အစည်းမှတ်ပုံတင်အမှတ် - ၅၆၆/၂၀၀၇-၂၀၀၈

(ဂ) ဆက်သွယ်ရန်နေရပ်လိပ်စာ - အမှတ်(၁၅)၊ ၃၁ လမ်းနှင့် ၇၆ လမ်းကြား၊
တယ်လီဖုန်းအမှတ်၊ ဖက်(စ်) အမှတ် ချမ်းအေးသာစည်မြို့နယ် ၊ မန္တလေးတိုင်းဒေသကြီး
တဲလက်(စ်) အမှတ် - ဖုန်း - ၀၂ - ၃၆၇၂၂

၂။ ခွင့်ပြုဧရိယာ၏

(က) တည်နေရာ (ကျေးရွာ၊ မြို့နယ်၊ - ပကာရီလုပ်ကွက်၊ ပကာရီကျေးရွာအုပ်စု၊
ခရိုင်၊ ပြည်နယ်/တိုင်းဒေသကြီး) - ထားဝယ်မြို့နယ်၊ ထားဝယ်ခရိုင်၊ တနင်္သာရီတိုင်းဒေသကြီး

(ခ) အကျယ်အဝန်း (စတုရန်းကီလိုမီတာ) - ၄၉.၀ ဧက( ၀.၁၉၈ စတုရန်းကီလိုမီတာ)

(ဂ) နယ်နိမိတ်သတ်မှတ်ချက် - မြေပုံညွှန်း-၉၅ ဂျေ/၈အို(၂၉၆၀၄၃၁၀၀၆၀၄၃၁၀၀၅၉၈၊ ၂၉၆၅၉၈ ( ခွင့်ပြုမိန့်အမှတ်၀၃၆၃/၂၀၁၀ ပူးတွဲမြေပုံပါ အကျယ်အဝန်းအတိုင်း)

၃။ ခွင့်ပြုဧရိယာ၏နယ်မြေ - ထားဝယ်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
အုပ်ချုပ်မှုဆိုင်ရာအဖွဲ့အစည်း -

၄။ တစ်ဆင့်သွားလာဝင်ထွက်ခွင့် - ထားဝယ်မြို့နယ်

၅။ ခွင့်ပြုသည့်ဓာတ်သတ္တုအမျိုးအစား - ခဲမဖြူအဖြိုက်နက်နှင့်ရောရာသတ္တု

၆။ ခွင့်ပြုသည့်ဓာတ်သတ္တုတူးဖော်မှုနှင့် - ဟင်းလင်းဖွင့်တူးဖော်ခြင်း၊ မြေအောက်တူးဖောက်ခြင်း၊
ဆင့်တက်ပြုပြင်မှုနည်းစနစ် - အမှတ်(၂)သတ္တုတွင်းလုပ်ငန်းမှသဘောတူခွင့်ပြုသောနည်းစနစ်နှင့် မြန်မာ့သတ္တုတွင်းဥပဒေပုဒ်မ ၂(ည)ပါအတိုင်း

၇။ ခွင့်ပြုသက်တမ်းကာလ - ဒုတိယအကြိမ်သက်တမ်းတိုး ( ၁ ) နှစ်

၈။ စတင်လုပ်ကိုင်ခွင့်ပြုသည့်ရက်စွဲ - ၂၁ . ၅ . ၂၀၁၄

၉။ ခွင့်ပြုမိန့်ကုန်ဆုံးသည့်ရက်စွဲ - ၂၀ . ၅ . ၂၀၁၅

၁၀။ ပုံသေမြေငှားရမ်းခ (Dead Rent) - တစ်စတုရန်းကီလိုမီတာလျှင်တစ်နှစ် ၃၀၀၀၀၀ဝိ/နှုန်း ပေးဆောင်ရန်

၁၁။ ဓာတ်သတ္တုခွန် - ၄ %

၁၂။ စည်းကမ်းချက်များ - တစ်ဖက်ပါစည်းကမ်းချက်များကိုတိကျစွာလိုက်နာရမည်။

မြင့်အောင်
ပြည်ထောင်စုဝန်ကြီး
သတ္တုတွင်းဝန်ကြီးဌာန

## စည်းကမ်းချက်များ

၁။ ဓာတ်သတ္တုထုတ်လုပ်ရန် ခွင့်ပြုမိန့်ရရှိသူသည်-

(က) ခွင့်ပြုဧရိယာသို့ဥပဒေနှင့်အညီ ဝင်ရောက်လုပ်ကိုင်ခွင့်ရှိသည်။

(ခ) ဓာတ်သတ္တုထုတ်လုပ်ခြင်းလုပ်ငန်းမစမီ နယ်မြေအုပ်ချုပ်ရေးဆိုင်ရာ အဖွဲ့အစည်းသို့ သတင်းပို့အစီရင်ခံရမည်။

(ဂ) မိမိအားတရားဝင်လုပ်ကိုင်ခွင့်ပြုထားသောဧရိယာအတွင်း(ခွင့်ပြုဧရိယာနယ်နမိတ် အနားသတ်မျဉ်းမှ အောက်သို့ တည့်မတ်စွာဆွဲသည့် ဒေါင်လိုက်မျဉ်းများအတွင်း) ၌သာ တူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်းကို လုပ်ကိုင်ရမည်။

(ဃ) မိမိအား တရားဝင်လုပ်ကိုင်ခွင့်ပြုထားသော လုပ်ကွက်ကိုအခြားမည်သူသို့မဆို ကိုယ်စားလှယ်အဖြစ်လုပ်ကိုင်စေခြင်းမှ အပ ဝန်ကြီးဌာန၏ ခွင့်ပြုချက်မရရှိဘဲ လွှဲပြောင်းပေးခြင်း၊ ပြန်လည်ရောင်းချခြင်းမပြုလုပ်ရ။

(င) တူးဖော်ထုတ်လုပ်ခွင့်ပြုထားသည့် နယ်မြေဒေသလုပ်ကွက်အတွင်းမှ ခွင့်ပြုထားသည့် ဓာတ်သတ္တုကိုသာ ခွင့်ပြုထားသည့် နည်းစနစ်အတိုင်း တူးဖော်ထုတ်လုပ်ရမည်။ အခြားမည်သည့် စီးပွားရေးလုပ်ငန်းကိုမျှ လုပ်ကိုင်ခွင့်မပြု။

(စ) လုပ်ကိုင်ခွင့်ပြုထားသည့် နယ်မြေဒေသရှိ လုပ်ကွက်အတွင်း တူးဖော်ခွင့်ပြုထားသည့် ဓာတ်သတ္တုမှအပ အခြားဓာတ်သတ္တုများနှင့် ရှေးဟောင်းယဉ်ကျေးမှု အမွေအနှစ်ပစ္စည်းများ တွေ့ရှိပါက ဦးစီးဌာနသို့ မပျက်မကွက်ချက်ချင်းအကြောင်းကြားရမည်။

(ဆ) ခွင့်ပြုမိန့်ပါ ဓာတ်သတ္တုနှင့်စပ်လျဉ်း၍ တူးဖော်ရရှိမှု ၊ရောင်းချမှုနှင့် လက်ကျန်ပမာဏတို့ကို သတ္တုတွင်းဦးစီးဌာနသို့ သတ်မှတ်ပုံစံဖြင့် လစဉ်အစီရင်ခံစာ ပေးပို့ရမည်။

(ဇ) တူးဖော်ထုတ်လုပ်ရရှိသည့် ဓာတ်သတ္တုများကို-

(၁) မြန်မာကျပ်ငွေဖြင့်ရောင်းချပါကသတ်မှတ်စည်းကြပ်သည့်ဓာတ်သတ္တုခွန်ကို မြန်မာငွေဖြင့်ပေးဆောင်ရမည်။

(၂) နိုင်ငံခြားငွေဖြင့်ရောင်းချပါက သတ်မှတ်စည်းကြပ်သည့် ဓာတ်သတ္တုခွန်ကို သတ်မှတ်သည့် နိုင်ငံခြားငွေဖြင့် ပေးဆောင်ရမည်။

(ဈ) တူးဖော်ထုတ်လုပ်မည့် လုပ်ကွက်တွင်လုပ်ငန်းလုပ်ကိုင်မည့် အလုပ်သမားစာရင်းကို အမည်၊ အသက်၊ နိုင်ငံသားစိစစ်ရေးကတ်အမှတ်၊နေရပ်လိပ်စာအပြည့်အစုံပြုစု၍ လုပ်ကွက်ရှိ လုပ်ငန်းရုံးတွင်ထားရှိရမည်။မိတ္တူပုံမိတ္တူတစ်စောင်ကို သတ္တုတွင်းဦးစီးဌာနသို့ ပေးပို့တင်ပြ ရမည်။ (အလုပ်သမားစာရင်း အပြောင်းအလဲရှိတိုင်း ချက်ချင်းတင်ပြရမည်။)

(ည) လုပ်ငန်းခွင်တွင် အပြင်းအထန်ထိခိုက်ဒဏ်ရာရရှိခြင်း၊ ထိခိုက်သေဆုံးခြင်းနှင့် ဥပဒေ၊ နည်းဥပဒေအရ သတင်းပို့ရမည့် မတော်တဆမှုများ ဖြစ်ပွားပါက သတ္တုတွင်းစစ်ဆေးရေးအရာရှိချုပ်ထံ ဥပဒေ၊နည်းဥပဒေတို့နှင့်အညီ အကြောင်းကြားရမည်။ အလုပ်သမားလျော်ကြေးဥပဒေနှင့် အကြုံးဝင်သည့် ထိခိုက်ဒဏ်ရာရရှိခြင်း၊သေဆုံးခြင်းဖြစ်ပေါ်ပါက ခွင့်ပြုမိန့်ရရှိသူမှ လျော်ကြေး ပေးရန် တာဝန်ယူ ရမည်။ ထို့ပြင်ခွင့်ပြုမိန့်ရရှိသူသည် အလုပ်သမားများနှင့်ပတ်သက်၍ ပြဌာန်းထားသည့် တည်ဆဲ ဥပဒေများ၊ နည်းဥပဒေများ ၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်ရမည်။

(ဋ) သစ်တောနယ်မြေ သို့မဟုတ် သစ်တောဖုံးလွှမ်းလျက်ရှိသော ပြည်ထောင်စုအစိုးရက စီမံခန့်ခွဲခွင့်ရှိသည့်မြေတွင် သစ်ပင်ခုတ်လှဲခြင်း၊မြေကြီးတူးဆွ ခြင်းစသည့် တစ်စုံတစ်ရာလုပ်ကိုင်လိုပါကသက်ဆိုင်ရာသစ်တောဦးစီးဌာန၏ ကြိုတင်ခွင့်ပြုချက်ကို ရယူရမည်။

(ဌ) မိမိအားခွင့်ပြုထားသည့်ဧရိယာအား နယ်နိမိတ်တိုင်းတာသတ်မှတ်စိုက်ထူခြင်းကို မိမိကုန်ကျစရိတ်ဖြင့် ဆောင်ရွက်ထားရှိရမည်။

(ဍ) ဓာတ်သတ္တုတူးဖော်ထုတ်လုပ်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် ထိခိုက်မှုမဖြစ်စေရန် စီမံဆောင်ရွက်ရမည်။

(ဎ) သက်ဆိုင်ရာအခွင့်အာဏာရှိသူများမှ စိစစ်သည့်အခါ ပြသနိုင်ရန် ခွင့်ပြုမိန့်ဓာတ်ပုံမိတ္တူကို လုပ်ငန်းခွင်တွင်ချိတ်ဆွဲထားရှိပြီး မူရင်းကို လုံခြုံစွာ ထိန်းသိမ်းထားရှိရမည်။ဆက်လက်လုပ်ကိုင်လိုပါက သက်တမ်းမကုန်မီ (၃) လကြိုတင်လျှောက်ထားရမည်။

(ဏ) ဥပဒေအရ ပေးဆောင်ရမည့် ပုံသေမြေငှားရမ်းခ ( Dead Rent) ကို ပေးသွင်းရန် သတ်မှတ်သည့်နေ့မှတစ်လအတွင်းဦးစီးဌာနသို့ ပေးသွင်း ရမည်။ ဆက်လက်လုပ်ကိုင်လိုပါက သက်တမ်းမကုန်ဆုံးမီ (၃)လကြိုတင်၍ လျှောက်ထားရမည်။

(တ) ဝန်ကြီးဌာန/ဦးစီးဌာနက အခါအားလျော်စွာ သတ်မှတ်သည့် စည်းကမ်းချက်များကို လိုက်နာရမည်။

၂။ ခွင့်ပြုမိန့်ရရှိသူသည် အထက်ပါစည်းကမ်းချက်များအပြင် ဥပဒေ၊နည်းဥပဒေ၊ အမိန့်နှင့် ညွှန်ကြားချက်များကိုလည်းလိုက်နာရမည်။ ထို့အပြင် အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် သတ္တုတူးဖော်ခြင်းကုမ္ပဏီလီမိတက်တို့ ပကာရီလုပ်ကွက်တွင် ခဲမဖြူ-အဖြိုက်နက်နှင့် ရောရာသတ္တု ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် ချုပ်ဆိုသည့် စာချုပ်ပါ စည်းကမ်းချက်များကိုလည်းလိုက်နာရမည်။

၃။ ဤခွင့်ပြုမိန့်အား သတ္တုတွင်းဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ၏ (၂၄/၂၀၁၄) ကြိမ်မြောက်အစည်းအဝေးမှ သဘောတူခွင့်ပြုချက်အရ ထုတ်ပေးခြင်း ဖြစ်သည်။

၄။ ဤခွင့်ပြုမိန့်အား ထုတ်ပေးသည့်နေ့မှစ၍ (၃)လအတွင်းလုပ်ငန်းများ ဆက်လက်ဆောင်ရွက်ခြင်းမပြုပါက အာမခံငွေအား နိုင်ငံတော်မှ သိမ်းယူမည်ဖြစ်သည့်အပြင် ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟုမှတ်ယူရမည်။

၅။ ဤခွင့်ပြုမိန့်အရ ခွင့်ပြုထားသောလုပ်ကွက်ဧရိယာအား နိုင်ငံတော်အတွက်လိုအပ်ပါက ခွင့်ပြုကာလအတွင်းပြန်လည်သိမ်းယူခွင့်ရှိရမည်။

၆။ ဤခွင့်ပြုမိန့်အား သတ်မှတ်စည်းကမ်းဘောင်အတွင်း မြေပိုင်ဆိုင်မှုနှင့် သက်ဆိုင်သော လုပ်ငန်းလုပ်ကိုင်ခွင့်နှင့် သက်ဆိုင်သော အငြင်းပွားမှုများ၊ စောဒကတက်မှုများ၊ သဘာဝပတ်ဝန်းကျင် ထိခိုက်ပျက်စီးစေမှုနှင့် ပတ်သက်သော တိုင်ကြားချက်များ ၊ အငြင်းပွားမှုများ ဖြစ်ပွားပါက ကုမ္ပဏီမှသာ တာဝန်ယူဖြေရှင်းရန်၊ မဖြေရှင်းနိုင်ပါက လုပ်ကိုင်ခွင့် ရပ်ဆိုင်းခြင်း ပေးသွင်းထားသည့် အခွန်အခနှင့် အခြား ပေးသွင်းမှုများ သိမ်းယူခြင်း၊ လုပ်ကွက်ပြန်လည်သိမ်းယူခြင်းခံရမည်ကို သဘောတူဝန်ခံကတိပြုရမည်။

၇။ ဤခွင့်ပြုမိန့်အရ ခွင့်ပြုထားသောလုပ်ကွက်အတွင်းနိုင်ငံခြားသားများအားခွင့်ပြုချက်မရှိဘဲတရားမဝင်အသုံးပြုခြင်းမပြုရန်လိုက်နာရမည်။




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

သတ္တုတွင်းဝန်ကြီးဌာန

**ဝန် ကြီး ရုံး**

နေပြည်တော်

စာအမှတ်၊ ၃၀ ခွဲ (၂) ၁၄ ( ၈၉၁၅ )

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ ဩဂုတ်လ ၂၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်တို့၏ ပကာရီဆင်းတွင်းကြီးလုပ်ကွက်အား ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် ခဲမဖြူ၊ အဖြိုက်နက်ရောရာသတ္တု အကြီးစားတူးဖော်ထုတ်လုပ်ခွင့်ပြုပါရန် တင်ပြခြင်း

ရည် ညွှန်း ချက် ။

(၁) သတ္တုတွင်းဝန်ကြီးဌာန၏ ၃၀.၅.၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ၃၀ ခွဲ (၂) ၁၄ (၅၄၄၀)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၄.၆.၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက - ၆(က) / မ-ထွေ / ၂၀၁၄ (၅၁၈၉-ည)

၁။ အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်တို့၏ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီဆင်းတွင်းကြီးလုပ်ကွက် ဧရိယာ(၄၀၃.၉၁)ဧကတွင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ် (Production Sharing Contract) ဖြင့် ခဲမဖြူ၊ အဖြိုက်နက်သတ္တု အကြီးစားထုတ်လုပ်ခွင့်ပြုနိုင်ရေး ရည်ညွှန်း(၁)ပါစာဖြင့် လိုအပ်သလို ဆောင်ရွက်ပေးနိုင်ပါရန် ညှိနှိုင်းခဲ့ရာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်း(၂)ပါစာဖြင့် အဆိုပြုလုပ်ငန်းမှာ နိုင်ငံတော်ပိုင် စီးပွားရေးလုပ်ငန်းများ ဥပဒေပုဒ်မ ၃ အရ အစိုးရကသာ နိုင်ငံတော်ပိုင်စီးပွားရေးလုပ်ငန်းအဖြစ် လုပ်ကိုင်ဆောင်ရွက်ခွင့်ရှိသည့်လုပ်ငန်းဖြစ်သည့်အတွက် ဥပဒေပုဒ်မ ၄ နှင့်အညီ ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြဆောင်ရွက်သွားရန်နှင့် အစိုးရအဖွဲ့၏ ခွင့်ပြုချက်ရရှိပြီးပါက အဆိုပြုလွှာ ပြန်လည်တင်ပြပေးပါရန် ပြန်ကြားခဲ့ပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ပြန်ကြားချက်အရ သတ္တုတွင်းဝန်ကြီးဌာနမှ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြခဲ့ရာ (၃၁.၇.၂၀၁၄) ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့၏ (၁၅/၂၀၁၄) ကြိမ်မြောက် အစည်းအဝေးမှ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီဆင်းတွင်းကြီး လုပ်ကွက် ဧရိယာ(၄၀၃.၉၁)ဧကတွင် သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်သို့ (၁၀)နှစ် သက်တမ်းရှိသော ခဲမဖြူ၊ အဖြိုက်နက်ရောရာသတ္တု အကြီးစားတူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းကို သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။



# သတ္တုတူးဖော်ခြင်းကမ္ဘာ ကုမ္ပဏီလီမိတက်

# MINING WORLD COMPANY LIMITED

No. 434, 76 St, Between 32 St x 33 St, Chan Aye Thar Zan Township, Mandalay.

: 092018562, 092019997, 098741414, 098752076

## သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်

## ခဲမဖြူ၊ အဖြိုက်နက်နှင့်ရောရောသတ္တု အကြီးစားတူးဖော်ထုတ်လုပ်မှုလုပ်ငန်း

## ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်

ဝန်ထမ်းများသက်သာချောင်ချိရေးအတွက် အောက်ပါအစီအမံများအတိုင်းဆောင်ရွက်မည်ဖြစ်ပါသည်။

၁။ ဝန်ထမ်းများအရည်အသွေး မြင့်မားလာစေရေးအတွက် လိုအပ်သောသင်တန်းများပေးခြင်းနှင့် သင်တန်းသို့စေလွှတ်ပေးခြင်း၊

၂။ လုပ်ငန်းခွင်သာယာသန့်ရှင်းစေရေးအတွက် လိုအပ်သောအစီအမံများ ဆောင်ရွက်ပေးခြင်း၊

၃။ ဝန်ထမ်းများ၏ ကျန်းမာရေးအတွက် ပုံမှန်ဆေးစစ်ပေးခြင်းနှင့် လိုအပ်ပါက အထူးကုဆရာဝန်ကြီးများနှင့်ကုသစေခြင်း၊

၄။ လိုအပ်သည့်ဝန်ထမ်းများအတွက် အိမ်ယာများဆောက်လုပ်ပေးခြင်း၊ နားနေဆောင်များဆောက်လုပ်ပေးခြင်း၊ နားနေဆောင်နှင့် ထမင်းစားဆောင်များ အမြဲသန့်ရှင်းစေအောင် ဆောင်ရွက်ပေးခြင်းနှင့် အမျိုးသားဝန်ထမ်းနှင့် အမျိုးသမီးဝန်ထမ်းများအတွက် သီးခြားဆောင်ရွက်ပေးခြင်း၊

၅။ နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် လူမှုဖူလုံရေးအက်ဥပဒေပါ အကျိုးခံစားခွင့်များရရှိအောင် စီစဉ်ဆောင်ရွက်ပေးခြင်း၊

၆။ မြန်မာ့ရိုးရာဓလေ့အရ အခါကြီးရက်ကြီးများတွင် ဝန်ထမ်းအားလုံးနှင့် မိသားစုများပါဝင်လှူဒါန်းနိုင်အောင် စီစဉ်ဆောင်ရွက်ပေးခြင်း၊

၇။ ဝန်ထမ်းများ၏ သာရေးနာရေး ထောက်ပံ့ငွေများကိုလည်း ခေတ်နှင့်လျော်ညီစွာ ထောက်ပံ့ပေးခြင်း၊

၈။ လစာများအချိန်မှန်ထုတ်ပေးခြင်းနှင့် အချိန်ပိုလုပ်ကိုင်ခဲ့ရပါက နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ အချိန်ပိုလုပ်ခခံစားခွင့်များထုတ်ပေးခြင်း၊

၉။ အရေးပေါ်လိုအပ်ငွေများအတွက် ထုတ်ချေးငွေများကို အတိုးမဲ့ (သို့မဟုတ်) အတိုးနှုန်းနည်းနည်းဖြင့် ထုတ်ချေးပေးခြင်း၊




# သတ္တုတူးဖော်ခြင်းကမ္ဘာ ကုမ္ပဏီလီမိတက်

# MINING WORLD COMPANY LIMITED

No. 434, 76 St, Between 32 St x 33 St, Chan Aye Thar Zan Township, Mandalay.
: 092018562, 092019997, 098741414, 098752076



၁၀။ ဆုကြေးငွေများနှင့် အပိုဆောင်းငွေများ ထုတ်ပေးခြင်း၊

၁၁။ ကျန်းမာရေးအတွက် အားကစားကွင်းများ ဆောက်လုပ်ပေးခြင်းနှင့် လေ့ကျင့်နိုင်အောင် လိုအပ်သောအားကစားပစ္စည်းများ စီစဉ်ဆောင်ရွက်ပေးခြင်းနှင့် စာကြည့်တိုက်များဆောက်လုပ်၍ ဗဟုသုတရရှိစေမည့် သတင်းစာ၊ စာစောင်နှင့် မဂ္ဂဇင်းများထားရှိပေးခြင်း

၁၂။ သန့်စင်ခန်းများကို အမျိုးသား၊ အမျိုးသမီး သီးခြားခွဲထားပေးပြီး လုံလောက်စွာ ဆောက်လုပ်ပေးခြင်းအပြင် သန့်ရှင်းစေရေးအတွက် လိုအပ်သောရေလုံလောက်စွာ ရရှိအောင်ဆောင်ရွက်ပေးခြင်း၊

၁၃။ ဝန်ထမ်းများအား လုပ်ငန်းခွင်အကွာအဝေးအရ လိုအပ်ပါက ရုံးတက်၊ ရုံးဆင်းချိန်တွင် Ferry ဖြင့်ကြိုပို့လုပ်ပေးခြင်း၊

၁၄။ တစ်လတစ်ကြိမ်ဝန်ထမ်းများ တွေ့ဆုံဆွေးနွေးဆန္ဒဖော်ထုတ်ပွဲကျင်းပပေး၍ လိုအပ်ချက်များ ဖြည့်ဆည်းဆောင်ရွက်ပေးခြင်း၊

၁၅။ လွတ်လပ်ရေးနေ့နှင့် ပြည်ထောင်စုနေ့များတွင် အလံတင်အခမ်းအနားကျင်းပပြီး အားကစားပြိုင်ပွဲများနှင့် ပျော်ပွဲရွှင်ပွဲများကျင်းပပေးခြင်း၊

Aung Than

**SAI AUNG THAN**
MANAGING DIRECTOR
MINING WORLD CO
သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်
(ခဲမဖြူ၊အဖြိုက်နက်နှင့်ရောရာသတ္တုအကြီးစား
တူးဖော်ထုတ်လုပ်မှုလုပ်ငန်း)

<u>လျှို့ဝှက်</u>




သတ္တုတူးဖော်ခြင်းကမ္ဘာ ကုမ္ပဏီလီမိတက်

MINING WORLD COMPANY LIMITED

No. 434, 76 St, Between 32 St x 33 St, Chan Aye Thar Zan Township, Mandalay.

: 092018562, 092019997, 098741414, 098752076

သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်
ခဲမဖြူ၊ အဖြိုက်နက်နှင့်ရောရာသတ္တု အကြီးစားတူးဖော်ထုတ်လုပ်မှုလုပ်ငန်း
သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ရေးအတွက် ဆောင်ရွက်သွားမည့်လုပ်ငန်းစီမံချက်

နိဒါန်း

တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာအုပ်စုရှိ ပကာရီဆင်းတွင်းကြီးသတ္တုလုပ်ကွက်တွင် ခဲမဖြူ၊ အဖြိုက်နက်နှင့်ရောရာသတ္တု အကြီးစားတူးဖော်ထုတ်လုပ်၍ ပြည်ပသို့တင်ပို့ရောင်းချရန်အတွက် ဤစီမံကိန်းကို အကောင်အထည်ဖော် ဆောင်ရွက်ရခြင်းဖြစ်ပါသည်။

ရည်ရွယ်ချက်

ဤလုပ်ငန်းစီမံကိန်းကို အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် လူမှုဘဝဝန်းကျင်နှင့် သဘာဝပတ်ဝန်းကျင် လေထု၊ မြေထု၊ ရေထုများထိခိုက်မှုမရှိအောင် ဆောင်ရွက်သွားနိုင်ရန် လိုအပ်သောအစီအမံများချမှတ်ဆောင်ရွက်သွားရန် အတွက်ဖြစ်ပါသည်။

လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်

ယခုစီမံကိန်းသည် သတ္တုတူးဖော်ခြင်း လုပ်ငန်းဖြစ်သဖြင့် သဘာဝပတ်ဝန်းကျင် ထိခိုက်မှုမရှိအောင် အောက်ပါအတိုင်းစနစ်တကျ၊ စီစစ်ကြီးကြပ်ဆောင်ရွက်သွားပါမည်။

(၁) သတ္တုတူးဖော်သည့်အခါ မြေတူးစက်များကြောင့် မြေမှုန့်များ ပတ်ဝန်းကျင်နေပြည်သူများထိခိုက်မှုမရှိအောင် ရေများအဆက်မပြတ်ပက်ဖျန်း၍ လုပ်ငန်းကိုဆောင်ရွက်သွားပါမည်။

(၂) တည်ရှိပြီးရေနုတ်မြောင်းနှင့် မြစ်ချောင်းများအား ရေစီးရေလာကောင်းမွန်ရေးနှင့် သဘာဝအတိုင်း ဆက်လက်စီးဆင်းနိုင်ရန် ကြီးကြပ်ဆောင်ရွက်သွားပါမည်။

(၃) သတ္တုတူးဖော်ထုတ်လုပ်မှု မလွတ်ကင်းသည့်ဧရိယာရှိ အပင်များမှအပ လက်ရှိပေါက်ရောက် နေသည့် အရိပ်ရအပင်ကြီးများကို သဘာဝအနေအထားမပျက် ထားရှိနိုင်ရေး ကြီးကြပ်ဆောင်ရွက်သွားပါမည်။

(၄) သတ္တုတူးဖော်ပြီးမြေကွက်များတွင်လည်း ပြန်လည်မြေဖို့၍ အဖိုးတန်သစ်ပင်ကြီးများကို အလျှင်အမြန် ပြန်လည်စိုက်ပျိုးကာ မူလသဘာဝအတိုင်းဖြစ်အောင် ဆောင်ရွက်သွားပါမည်။

(၅) ဖောက်လုပ်မည့်လမ်းများကိုလည်း အရည်အသွေးအဆင့်မီလမ်းများအဖြစ် ဖောက်လုပ်မည်ဖြစ်ပြီး ရေမြောင်းများစနစ်တကျဖော်ထုတ်ပြီး သဘာဝပတ်ဝန်းကျင် ထိခိုက်မှုမရှိအောင်စနစ်တကျဆောင်ရွက်သွားပါမည်။

လို့ဝက်

(၆) စွန့်ပစ်မြေများကိုလည်း လယ်ယာမြေများနှင့်ကင်းလွတ်ပြီး သဘာဝရေစီးရေလာ မြစ်၊ ချောင်းများကိုလည်း မထိခိုက်အောင် စနစ်တကျ မိုင်းဒီဖိုင်းများရေးဆွဲ၍ စွန့်ပစ်သွားပါမည်။

(၇) ဓါတ်ဆေးများသုံးစွဲခြင်းမရှိသဖြင့် သဘာဝပတ်ဝန်းကျင် ထိခိုက်ပျက်စီးယုတ်လျော့မှု ရှိမည်မဟုတ်ပါ။

(၈) ရေလှူပ်စင်မှထွက်လာမည့် စွန့်ပစ်ရေများကိုလည်း စနစ်တကျစီးဆင်းစေပြီး ရေစစ်ကန်များပြုလုပ်၍ ထိန်းသိမ်းသွားမည်ဖြစ်သည့်အပြင် လယ်ယာမြေများနှင့် သဘာဝစီးဆင်းနေသော မြစ်ချောင်းများသို့ စီးဝင်မှုမရှိစေရန် ကြိုးကြပ်ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

(၉) လုပ်ငန်းဆောင်ရွက်ရာတွင် လူမှုဘဝဝန်းကျင်နှင့်သဘာဝပတ်ဝန်းကျင် အခြေအနေများ ထိခိုက်ပျက်စီးယုတ်လျော့မှုမရှိစေရန်အတွက် နိုင်ငံတကာအဆင့်မီ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းများ ဆောင်ရွက်နေသည့်ပြည်တွင်း၊ ပြည်ပ ပညာရှင်များထံမှ အကြံဉာဏ်နှင့်နည်းပညာများ ရယူဆောင်ရွက်သွားပါမည်။

(၁၀) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းများ ဆောင်ရွက်နိုင်ရန် ရင်းနှီးမြှုပ်နှံငွေပေါ် (၀. ၂)% ဖြင့် ထုတ်လုပ်မှုစတင်သည့်နှစ်မှစတင်၍ နှစ်စဉ်ရန်ပုံငွေများ သီးခြားထည့်ဝင်သွားပါမည်။

(၁၁) Coporate Social Responsibility လုပ်ငန်းများ ဆောင်ရွက်နိုင်ရန် နှစ်စဉ်ရရှိသည့် အသားတင်အမြတ်ပေါ် ၁%နှင့်ညီမျှသောငွေကိုသုံးစွဲရန် ရန်ပုံငွေလျာထားသွားမည် ဖြစ်ပါသည်။

နိဂုံး

ယခုဆောင်ရွက်မည့်စီမံကိန်းကို အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် လူမှုဘဝဝန်းကျင်နှင့် သဘာဝပတ်ဝန်းကျင်များ ထိခိုက်ပျက်စီးယုတ်လျော့မှုမရှိအောင် စနစ်တကျကြိုးကြပ် ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

Aung Than

SAI AUNG THAN
MANAGING DIRECTOR
သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်
(ခဲမဖြူအဖြုက်နက်နှင့်ရောရာသတ္တုအကြီးစား
တူးဖော်ထုတ်လုပ်မှုလုပ်ငန်း)

လျှို့ဝှက်

# သတ္တုတူးဖော်ခြင်းကုမ္ပဏီလီမိတက်

# Corporate Social Responsibility (CSR)လုပ်ငန်းများအတွက်

# ဆောင်ရွက်မည့်အစီအစဉ်

ကျွန်တော်များကုမ္ပဏီအနေဖြင့် ယခုအဆိုပြုတင်ပြသည့် ခဲမဖြူ၊ အဖြိုက်နက်နှင့်ရောရောသတ္တု အကြီးစားထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် Corporate Social Responsibility (CSR) လုပ်ငန်းများဆောင်ရွက်နိုင်ရန်အတွက် နှစ်စဉ်အသားတင်အမြတ်ငွေ၏(၁%) ကို အောက်ပါလုပ်ငန်းများတွင် ဖော်ပြထားသည့်အချိုးများအတိုင်း သုံးစွဲသွားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

(က) သတ္တုတွင်းလုပ်ကွက်ပတ်ဝန်းကျင်ရှိ ကျေးရွာနှင့်လူနေရပ်ကွက်များတွင် စာကြည့်တိုက်များ ထူထောင်ပေးခြင်း (၁၅% သုံးစွဲပါမည်)

(ခ) သတ္တုတွင်းလုပ်ကွက်ပတ်ဝန်းကျင်ရှိ ကျေးရွာနှင့်လူနေရပ်ကွက်များတွင် ကျန်းမာရေးအထောက်အကူပြု ဆေးပေးခန်းများ ထူထောင်ပေးခြင်း (၂၅% သုံးစွဲပါမည်)

(ဂ) သတ္တုတွင်းလုပ်ကွက်ပတ်ဝန်းကျင်ရှိ ကျေးရွာနှင့်လူနေရပ်ကွက်များတွင် လမ်း၊တံတားများပြုပြင်ပေးခြင်းနှင့် ရေစီးရေလာကောင်းမွန်ရေးအတွက် ရေမြောင်းများပြုလုပ်ပေးခြင်း (၂၀% သုံးစွဲပါမည်)

(ဃ) သတ္တုတွင်းလုပ်ကွက်ပတ်ဝန်းကျင်ရှိ ကျေးရွာနှင့်လူနေရပ်ကွက်များတွင် နေ့ကလေးထိန်းဌာနဖွင့်လှစ်ပေးခြင်းနှင့် မူလတန်းကျောင်းများအား ပညာရေးထောက်ပံ့ငွေများ ပေးအပ်ခြင်း (၂၀% သုံးစွဲပါမည်)

(င) သတ္တုတွင်းလုပ်ကွက်ပတ်ဝန်းကျင်ရှိ ကျေးရွာနှင့်လူနေရပ်ကွက်များတွင် လျှပ်စစ်မီးရရှိရေးကို ဆောင်ရွက်ပေးခြင်း (၂၀% သုံးစွဲပါမည်)





# သတ္တုတူးဖော်ခြင်းကမ္ဘာ ကုမ္ပဏီလီမိတက်

# MINING WORLD COMPANY LIMITED

No. 434, 76 St, Between 32 St x 33 St, Chan Aye Thar Zan Township, Mandalay.
: 092018562, 092019997, 098741414, 098752076


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ ( ၂၉ ) ရက်

အကြောင်းအရာ၊ Corporate Social Responsibility(CSR) လုပ်ငန်းများအတွက် ကတိဝန်ခံချက် တင်ပြခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကျွန်တော်များကုမ္ပဏီအနေဖြင့် ယခုအဆိုပြု တင်ပြသည့် ခဲမဖြူ အမြိုက်နက်နှင့်ရောရာသတ္တုများ အကြီးစားတူးဖော် ထုတ်လုပ်မှုလုပ်ငန်းကို ဆောင်ရွက်ရာတွင် Corporate Social Responsibility(CSR)လုပ်ငန်းများအတွက် ကျွမ်းကျင်ပညာရှင်များ၏ အကြံဉာဏ်နှင့်အကူ အညီများကိုရယူပြီး ဆောင်ရွက်သွားမည်ဖြစ်ပါသည်၊ ထို့ပြင် Corporate Social Responsibility (CSR) လုပ်ငန်းများဆောင်ရွက်နိုင်ရန် နှစ်စဉ်အသားတင်အမြတ်ငွေမှ(၁%) သုံးစွဲသွားမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

Aung Than

SAI AUNG THAN
MANAGING DIRECTOR
MINING WORLD CO., LTD.





# သတ္တုတူးဖော်ခြင်းကမ္ဘာ ကုမ္ပဏီလီမိတက်

# MINING WORLD COMPANY LIMITED

No. 434, 76 St, Between 32 St x 33 St, Chan Aye Thar Zan Township, Mandalay.

: 092018562, 092019997, 098741414, 098752076


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ (၂၉ ) ရက်၊

အကြောင်းအရာ။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းများအတွက် ကတိဝန်ခံချက်တင်ပြခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကျွန်တော်များကုမ္ပဏီအနေဖြင့် ယခုအဆိုပြု တင်ပြသည့် ခဲမဖြူ အမြိုက်နက်နှင့်ရောရာသတ္တုများ အကြီးစားတူးဖော် ထုတ်လုပ်မှုလုပ်ငန်းကို ဆောင်ရွက်ရာတွင် လူမှုဘဝနှင့် သဘာဝပတ်ဝန်းကျင်များ ထိခိုက်ယုတ်လျော့ပျက်စီးမှုများ မရှိစေရန်အတွက် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးကိစ္စများနှင့်ပတ်သက်သည့် ကျွမ်းကျင်ပညာရှင်များ၏ အကြံဉာဏ်နှင့် အကူအညီများကိုရယူပြီး ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး လုပ်ငန်းများဆောင်ရွက်နိုင်ရန် ရင်းနှီးမြှုပ်နှံ ငွေပေါ် (၀.၂%) ဖြင့် ထုတ်လုပ်မှုစတင်သည့်နှစ်မှစတင်၍ နှစ်စဉ်ရန်ပုံငွေများကို သီးသန့်ငွေစာရင်းခေါင်းစဉ် ဖွင့်လှစ်၍ ထည့်ဝင်သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

Aung Than

SAI AUNG THAN
MANAGING DIRECTOR
MINING WORLD CO., LTD.

# သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်

# သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းများအတွက်

# ဆောင်ရွက်မည့်အစီအစဉ်

ကျွန်တော်များကုမ္ပဏီအနေဖြင့် ယခုအဆိုပြုတင်ပြသည့် စံမပြို့ အပြိုက်နက်နှင့်ရောရောသတ္တု အကြီးစားထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် သဘာဝပတ်ဝန်းကျင်များ ထိခိုက်ယုတ်လျော့ပျက်စီးမှုများ မရှိစေရန်အတွက် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးကိစ္စများနှင့်ပတ်သက်သည့် ကျွမ်းကျင်ပညာရှင်များ၏ အကြံဉာဏ်နှင့် အကူအညီများကိုရယူပြီး ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ ဤသို့ ကျွမ်းကျင်ပညာရှင်များ၏ ဆောင်ရွက်သွားရန်လမ်းညွှန်ပေးမည့်စီမံချက်ပါ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းများ ဆောင်ရွက်နိုင်ရန်ရင်းနှီးမြှုပ်နှံငွေပေါ်(၀.၂%) ဖြင့် ထုတ်လုပ်မှုစတင်သည့်နှစ်မှစတင်၍ နှစ်စဉ်ရန်ပုံငွေများကို သီးသန့်ငွေစာရင်းခေါင်းစဉ်ဖွင့်လှစ်၍ ထည့်ဝင်သွားပါမည်။



# သတ္တုတူးဖော်ခြင်းကမ္ဘာ ကုမ္ပဏီလီမိတက်
# MINING WORLD COMPANY LIMITED

No. 434, 76 St, Between 32 St x 33 St, Chan Aye Thar Zan Township, Mandalay.
: 092018562, 092019997, 098741414, 098752076

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ ( ၂၉ ) ရက်

အကြောင်းအရာ။ ဝန်ခံချက်တင်ပြခြင်း၊

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကျွန်တော်များကုမ္ပဏီအနေဖြင့် ပြဋ္ဌာန်းထားသည့်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းနှင့် ညွှန်ကြားချက်များကို တိကျစွာလိုက်နာ ဆောင်ရွက်မည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

Aung Than

**SAI AUNG THAN**
MANAGING DIRECTOR
MINING WORLD CO., LTD.




သတ္တုတူးဖော်ခြင်းကမ္ဘာ ကုမ္ပဏီလီမိတက်

**MINING WORLD COMPANY LIMITED**

No. 434, 76 St, Between 32 St x 33 St, Chan Aye Thar Zan Township, Mandalay.

: 092018562, 092019997, 098741414, 098752076


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ( ၂၉ )ရက်

အကြောင်းအရာ။ ၊လျှပ်စစ်ရယူသုံးစွဲမည့်အစီအစဉ်တင်ပြခြင်း။

ကျွန်တော်များကုမ္ပဏီအနေဖြင့် လျှပ်စစ်ဓါတ်အားသုံးစွဲခြင်းနှင့် ပတ်သက်၍ မဟာဓါတ်အားလိုင်းသွယ်တန်းမှုမှာ သတ္တုတူးဖော်ရေးလုပ်ကွက်သို့ ရောက်ရှိမည်မဟုတ်သဖြင့် လျှပ်စစ်ဓါတ်အားအတွက် (400 KVA Generator) ၂လုံးဖြင့် သုံးစွဲသွားမည်ဖြစ်ပါသည်၊

လေးစားစွာဖြင့်

Aung Than

SAI AUNG THAN
MANAGING DIRECTOR
MINING WORLD CO., LTD.



# သတ္တုတူးဖော်ခြင်းကမ္ဘာ ကုမ္ပဏီလီမိတက်

# MINING WORLD COMPANY LIMITED

No. 434, 76 St, Between 32 St x 33 St, Chan Aye Thar Zan Township, Mandalay.
: 092018562, 092019997, 098741414, 098752076

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ ( ၂၉ )ရက်

အကြောင်းအရာ။ ။ကုန်ကြမ်းရယူမည့်အစီအစဉ်၊ ထုတ်လုပ်မှုနည်းစဉ်နှင့် ကုန်ချောရောင်းချမှု အစီအစဉ်များတင်ပြခြင်း။

၁။ ကျွန်တော်များကုမ္ပဏီအနေဖြင့် သတ္တုတွင်းဝန်ကြီးဌာနလက်အောက်ရှိ အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် အကျိုးတူပူးပေါင်း၍ ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် ခဲမဖြူ၊ အဖြိုက်နက်နှင့်ရောရာသတ္တုများကို အကြီးစားတူးဖော်ထုတ်လုပ်နိုင်ရန် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာ အုပ်စုရှိ ပကာရီဆင်းတွင်းကြီးသတ္တုလုပ်ကွက်တွင် (၄၀၃.၉၃)ဧကရှိ မြေလွတ်၊မြေရိုင်းများကို ဟင်းလင်းဖွင့် သတ္တုတူးဖော်ရေးစနစ်နှင့် သတ္တုပါဝင်သည့်မြေစာများကို ကုန်ကြမ်းအဖြစ် ရယူသွားမည်ဖြစ်ပါသည်၊

၂။ ကျွန်တော်များကုမ္ပဏီအနေဖြင့် တူးဖော်ရရှိလာသည့် သတ္တုရိုင်းပါဝင်သည့်မြေစာများကို ကြိတ်ခွဲပြီး ရေလှုပ်စင်တွင် အနည်ထိုင်ဖမ်းယူသောနည်းစနစ်ဖြင့် ခဲမဖြူသတ္တုသန့်စင်တွင် ခဲမဖြူသတ္တုပါဝင်မှုအနည်းဆုံး Sn 65% နှင့် အဖြိုက်နက်သတ္တုသန့်စင်တွင် $WO_3$ ပါဝင်မှုအနည်းဆုံး 65% ရှိသည့် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုများကို ထုတ်လုပ်သွားမည်ဖြစ်ပါသည်၊

၃။ ဤသို့သန့်စင်ပြီး အရည်အသွေးမျှမ်းမှု Sn 65% နှင့် $WO_3$ ပါဝင်မှုအနည်းဆုံး 65% ရှိသည့် ခဲမဖြူ၊ အဖြိုက်နက်နှင့်ရောရာသတ္တုများကို သတ္တုတွင်းဝန်ကြီးဌာန၏ L.M.E (London Metal of Exchange) ပေါ် အခြေပြု၍ ထောက်ခံထုတ်ပေးသည့်ဈေးနှုန်းဖြင့် စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီး ဌာနသို့ ထုတ်ကုန်လိုင်စင်(Export Licence)လျှောက်ထားပြီး တရုတ်ပြည်သူ့သမ္မတနိုင်ငံသို့ တင်ပို့ရောင်းချသွားမည် ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Aung Than

SAI AUNG THAN
MANAGING DIRECTOR
MINING WORLD CO., LTD.




# သတ္တုတူးဖော်ခြင်းကမ္ဘာ ကုမ္ပဏီလီမိတက်
# MINING WORLD COMPANY LIMITED

No. 434, 76 St, Between 32 St x 33 St, Chan Aye Thar Zan Township, Mandalay.
: 092018562, 092019997, 098741414, 098752076

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ( ၂၉ )ရက်

အကြောင်းအရာ။ ။စက်ယန္တရားများ ဝယ်ယူမှုအတွက် ရှင်းလင်းတင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ ကျွန်တော်များ သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်သည် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာအုပ်စုရှိ ပကာရီဆင်းတွင်းကြီး သတ္တုလုပ်ကွက်တွင် ခဲမဖြူ၊ အဖြိုက်နက်နှင့်ရောရာသတ္တု အကြီးစားတူးဖေါ် ထုတ်လုပ်မှုလုပ်ငန်းကို အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်(Production Sharing Contract Basic)ဖြင့် ပူးပေါင်းထုတ်လုပ်ရန်ညှိနှိုင်းပြီးဖြစ်ပါသဖြင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ(၂၀)တွင် ဖော်ပြထားသည့်ခွင့်ပြုမိန့်ကို ထုတ်ပြန်ပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်၊

၂။ ကျွန်တော်များကုမ္ပဏီအနေဖြင့် အထက်ဖော်ပြပါလုပ်ကွက်တွင် ခဲမဖြူ၊ အဖြိုက်နက်နှင့်ရောရာသတ္တုများ ထုတ်လုပ်ရန်အတွက်လိုအပ်သော စက်ယန္တရားများကို ပြည်ပမှဝယ်ယူတင်သွင်းသွားမည်ဖြစ်ပြီး ဝယ်ယူတင်သွင်းရန်အတွက်လိုအပ်သော နိုင်ငံခြားငွေကို ကျွန်တော်များကုမ္ပဏီနှင့် ညီနောင်ကုမ္ပဏီများမှ ကရားဝင်ရရှိထားသည့် Earning ငွေဖြင့်ဝယ်ယူသွားမည် ဖြစ်ပါသည်၊

၃။ နိုင်ငံခြားမှ ဝယ်ယူတင်သွင်းမည့် စက်ယန္တရားများအတွက်လည်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိပြီးမှသာ သက်ဆိုင်ရာသတ္တုတွင်းဝန်ကြီးဌာန၏ ထောက်ခံချက်ဖြင့် စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနသို့ တင်ပြလျှောက်ထားသွားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်၊

လေးစားစွာဖြင့်

Aung Than

SAI AUNG THAN
MANAGING DIRECTOR
MINING WORLD CO., LTD.




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
တနင်္သာရီတိုင်းဒေသကြီး

စာအမှတ်၊ ၄၇၀၀ /၇၇၃/၇-၇၃/အဖရ(တနင်္သာရီ)
ရက် စွဲ ၊ ၂၀၁၃ ခုနှစ်၊ ဇူလိုင်လ ၂၅ ရက်

သို့

✓သတ္တုတွင်းဝန်ကြီးဌာန
နေပြည်တော်

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်ကြားခြင်း

ရည် ညွှန်း ချက် ။ သတ္တုတွင်းဝန်ကြီးဌာန ၏ (၃.၇.၂၀၁၃)ရက်စွဲပါ စာအမှတ်၊ ၂၇ ခွဲ (၂) ၁၃ (၅၀၆၆)

၁။ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာအုပ်စု၊ ခန့်မှန်းမြေပုံညွှန်းအမှတ်၊ 95 J/8 (A-297603, B-297607, C-305607, D-302602, E-309600, F-309590, G-300590, H-293590) ရှိ ဧရိယာ(၄၁၆)ဧကေတို့တွင် ခဲမဖြူ၊ အဖြိုက်နက် သတ္တုတူး ဖော်ထုတ်လုပ်ရန်အတွက် ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန် သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက် မှ အဆိုပြုတင်ပြလာမှုအပေါ် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် မြေစာရင်းပုံစံရေးကူးခွင့်၊ လုံခြုံရေးအရခွင့်ပြုနိုင်ခြင်း ရှိ/မရှိ၊ စိုက်ပျိုးမြေများနှင့် လွတ်ကင်းမှု ရှိ/မရှိ၊ စီမံကိန်းနယ်မြေ များနှင့် လွတ်ကင်းမှုရှိ/မရှိ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်း အကြောင်းကြားလာခဲ့ပါသည်။

၂။ အဆိုပါ လုပ်ကွက်သည် သက်ဆိုင်ရာဌာနများ၏ စိစစ်တင်ပြချက်အရ လုံခြုံရေးအရ ခွင့်ပြုနိုင်ပြီး တောရိုင်းမြေအမျိုးအစားဖြစ်ခြင်း၊ လုပ်ကွက်ဟောင်းနေရာဖြစ်ခြင်း၊ ဒေသခံ တောင်သူဥယျာဉ်ခြံမြေများနှင့်လွတ်ကင်းမှုရှိခြင်း၊ အခြားကုမ္ပဏီများနှင့် ပုဂ္ဂလိကလုပ်ငန်းရှင်များမှ အပြိုင်လျှောက်ထားမှုမရှိခြင်း၊ စားကျက်မြေ၊ ရွာမြေ၊ သစ်တောမြေ၊ စီမံကိန်းနယ်မြေများနှင့် လွတ်ကင်းမှုရှိခြင်း၊ ကုမ္ပဏီမှယခင် တင်ပြလျှောက်ထားလာမှုအား မြေစာရင်းပုံစံ(၁၀၅) ရေးကူး ခွင့်ပြုထားသည့် လုပ်ကွက်ဖြစ်ခြင်း၊ သတ္တုတူးဖော်ဆောင်ရွက်မည်ဆိုပါက သဘာဝပတ်ဝန်းကျင် ထိခိုက်မှုနည်းပါးသည့် အစီအမံများဖြင့် ဆောင်ရွက်သင့်ပါကြောင်း စိစစ်တင်ပြလာခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်မှ ခဲမဖြူ၊ အဖြိုက်နက်သတ္တုတူး ဖော်ဆောင်ရွက်ရန် အဆိုပြုတင်ပြမှုအား ညှိနှိုင်းလာမှုအပေါ် မြေယာဥပဒေ၊ လုပ်ထုံးလုပ်နည်းနှင့် အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ် ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(တင်သိန်း၊ အတွင်းရေးမှူး)

မိတ္တူကို

တနင်္သာရီတိုင်းဒေသကြီးအမှတ်(၂)သတ္တုတွင်းလုပ်ငန်း၊ ထားဝယ်မြို့
သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်
လက်ခံစာတွဲ/မျှောစာတွဲ

လျို့ဝှက်

၄၁

သစ်တောဦးစီးဌာန ။
ညွှန်ကြားရေးမှူးရုံး ။
တနင်္သာရီတိုင်းဒေသကြီး - ထားဝယ်မြို့ ။
စာအမှတ် ။ ၁၅၇၉၁ - ၁၅၇၉၃/၅(က)၂ ။
ရက်စွဲ ။ ၂၄ - ၉ - ၂၀၁၂ ။

သို့

တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ထားဝယ်မြို့

အကြောင်းအရာ ။ ခဲမဖြူ၊ အဖြိုက်နက်နှင့်ရောရာ အကြီးစားသတ္တုစမ်းသပ်တိုင်းတာခွင့်ပြုရန် လျှောက်ထားခြင်းကိစ္စ

ရည်ညွှန်းချက် ။ (၁) တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၊ ထားဝယ်မြို့၏ (၃၁.၇.၂၀၁၂)ရက်စွဲပါစာအမှတ်၊ ၂၈၇၅/၃၄၅/၃-၄၅/အဖရ(တနင်္သာရီ)

(၂) တနင်္သာရီတိုင်းဒေသကြီး၊ သစ်တောဦးစီးဌာန၊ ထားဝယ်မြို့၏ (၇.၈.၂၀၁၂)ရက်စွဲပါ စာအမှတ်၊ ၁၃၈၀၆-၁၃၈၀၈/၈(က)၂

(၃) လက်ထောက်ညွှန်ကြားရေးမှူးရုံး၊ သစ်တောဦးစီးဌာန၊ ထားဝယ်ခရိုင်၏ (၃၁.၈.၂၀၁၂) ရက်စွဲပါ စာအမှတ်၊ ၅၈၀၆-၅၈၀၇/၈(က)၂

၁။ အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာအနီးရှိ အကြီးစားသတ္တုလုပ်ကွက်၊ ခန့်မှန်းမြေပုံညွှန်း 95J/8 A-297603, B-297607, C-305607, D-302602, E-309600, F-309590, G-300590, H-300585, I-290585 ရှိ [redacted] ခဲမဖြူ၊ အဖြိုက်နက်နှင့်ရောရာ အကြီးစားသတ္တုစမ်းသပ်တိုင်းတာခွင့်ပြုပါရန် လျှောက်ထားလာမှုနှင့်ပတ်သက်၍ လျှောက်ထားမြေဧရိယာအား စိစစ်ပြီး သဘောထားပြန်ကြားပေးရန် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးမှ ရည်ညွှန်း(၁)ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ သတ္တုတူးဖော်ခြင်းကုမ္ပဏီမှ အထက်ဖော်ပြပါနေရာရှိ မြေဧရိယာတွင် ခဲမဖြူ၊ အဖြိုက်နက်အကြီးစားသတ္တုစမ်းသပ်တိုင်းတာခွင့်ပြုပါရန် လျှောက်ထားလာသည့် မြေဧရိယာအား စိစစ်တင်ပြရန် ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြားခဲ့ရာ ထားဝယ်ခရိုင်၊ သစ်တောဦးစီးဌာနမှ ရည်ညွှန်း(၃)ပါစာဖြင့် တင်ပြချက်အရ အောက်ပါအတိုင်း ကောက်နုတ်တင်ပြအပ်ပါသည်-

(က) သတ္တုတူးဖော်ခြင်းကုမ္ပဏီမှ သတ္တုအကြီးစားစမ်းသပ်တိုင်းတာခွင့် လျှောက်ထားသည့်မြေနေရာသည် [redacted] စစ်ဆေးတင်ပြထားပါသည်။

(ခ) [redacted] စစ်ဆေးတင်ပြထားပါသည်။

(ဂ) [redacted]

(ဃ) လျှောက်ထားမြေနေရာသည် သစ်တောဦးစီးဌာနမှ တည်ထောင်ထားသော သစ်တောစိုက်ခင်း၊ ရေဝေရေလဲဧရိယာများ၊ သစ်ထုတ်လုပ်ကွက်များနှင့်ကင်းလွတ်ပါကြောင်း၊ [redacted]

(င) လျှောက်ထားမြေနေရာသည် ကျေးရွာနှင့်နီးကပ်စွာ တည်ရှိသဖြင့် ရွာသူရွာသားများ၏ နေအိမ်ဆောက်လုပ်ရန်အတွက် တိုင်၊ မျောထုတ်ယူသုံးစွဲမှုကြောင့် [redacted] ပါသည်။

(စ) လျှောက်ထားသည့်မြေဧရိယာအား (၀.၂၅)ဧကစီရှိ ကောင်း၊ သင့်၊ ညံ့စံနမူနာကွက်(၃)ကွက်အတွင်း စာရင်းကောက်ယူရာတွင် (၁)ဧကလျှင် (၁)ပေ(၁၁)လက်မှ (၂)ပေခန့်ရှိ ခန့်မှန်းပင်ထောင်(၆၄)ပင်ခန့် ပေါက်ရောက်ပါကြောင်း စစ်ဆေးတင်ပြထားပါသည်။

၃။ သို့ဖြစ်ပါ၍ သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီမှ လျှောက်ထားသော [redacted] ကျရောက်မှုမရှိသော်လည်း ခံမဖြူ၊ အဖြိုက်နက်နှင့်ရောရာ အကြီးစားသတ္တုတူးဖော်မည်ဆိုပါက သဘာဝပတ်ဝန်းကျင်ထိခိုက်ပျက်စီးနိုင်သဖြင့် သစ်တောစိုက်ခင်းများ ပြန်လည်အစားထိုးစိုက်ပျိုးပြီး ဆောင်ရွက်စေသင့်ပါကြောင်း၊ သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရေးအတွက် ၁၉၉၂ ခုနှစ်၊ နိုဝင်ဘာလတွင် ထုတ်ပြန်သော သစ်တောအက်ဥပဒေပုဒ်မ-၁၂(က)နှင့် ၁၉၉၅ ခုနှစ်၊ ဒီဇင်ဘာလတွင် ထုတ်ပြန်သော သစ်တောနည်းဥပဒေပုဒ်မ-၂၀(က)နှင့် ၂၂(က)တို့အရ သစ်ပင်များခုတ်လှဲရန်ရှိပါက ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏ ကြိုတင်ခွင့်ပြုချက်ရရှိရန် လိုအပ်ပါကြောင်း အစီရင်ခံတင်ပြအပ်ပါသည်။

(မြင့်ဌေး)

ညွှန်ကြားရေးမှူး

သစ်တောဦးစီးဌာန

တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်မြို့

မိတ္တူကို-

(၁) လက်ထောက်ညွှန်ကြားရေးမှူး၊ သစ်တောဦးစီးဌာန၊ ထားဝယ်ခရိုင် ။

(၂) မျှောစာတွဲ ။

(၃) ရုံးလက်ခံ ။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ပြည်ထောင်စုရှေ့နေချုပ်ရုံး

## နေပြည်တော်

စာအမှတ်၊ ၂(၅)၈ - ၂၁ /နပတ( ၇၂ )

ရက်စွဲ ၊ ၂၀၁၃ ခုနှစ်၊ ဇန်နဝါရီလ ၂၃ ရက်

အကြောင်းအရာ။ **ထုတ်လုပ်မှုလုပ်ငန်းအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုအကြီးစားထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရန်ချုပ်ဆိုမည့်စာချုပ် (မူကြမ်း) အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂)သတ္တုတွင်းလုပ်ငန်း၏ ၃၀-၁၂-၂၀၁၃ ရက်စွဲပါစာအမှတ်၊ ၁၅၇၂/ခဲဖြိုက်-အကြီး(ပကာရီ-ဆင်းတွင်းကြီး)/၁၃

၁။ သတ္တုတွင်းဝန်ကြီးဌာန၊အမှတ်(၂)သတ္တုတွင်းလုပ်ငန်းသည်[redacted]ကုမ္ပဏီလီမိတက်နှင့် တနင်္သာရီတိုင်းဒေသကြီး၊ [redacted]၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာအုပ်စုရှိ ပကာရီဆင်းတွင်းကြီးလုပ်ကွက်ဧရိယာ(၄၀၃.၉၃)ဧကတွင် ခဲမဖြူ၊အဖြိုက်နက်နှင့် ရောရာသတ္တုအကြီးစား ထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသောသဘောတူစာချုပ်(မူကြမ်း) အပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာဖြင့် ပူးတွဲပေးပို့လာသော စာချုပ်(မူကြမ်း) မှာ ဤရုံး၏ ၃၁-၁၂-၂၀၁၂ ရက်စွဲပါစာအမှတ်၊၂(၅)၈-၁၉၆/နပတ(၇၁၇)ဖြင့် အကြံပြုပြန်ကြားခဲ့သောအမှတ်(၂) သတ္တုတွင်းလုပ်ငန်းနှင့် မြန်မာရူဘီအင်တာပရိုက်(စ်) ကျောက်မျက်ရတနာကုမ္ပဏီလီမိတက်တို့အကြား ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)နှင့် အချို့အချက်များမှလွဲ၍ အလားတူ ပြုစုထားသည်ကို တွေ့ရှိရ ပါသည်။

၃။ ရည်ညွှန်းချက်ပါစာနှင့်အတူ ပူးတွဲပေးပို့လာသောစာချုပ်(မူကြမ်း)အပေါ် ဉပဒေ ရှုထောင့်မှ လေ့လာစိစစ်၍ အောက်ပါအတိုင်း အကြံပြုအပ်ပါသည်-

(က) စာချုပ် (မူကြမ်း) တွင် မြေပုံကိုနောက်ဆက်တွဲ(က) အဖြစ် ပူးတွဲထားသော်လည်း စာချုပ် (မူကြမ်း) အပိုင်း(၄) လုပ်ပိုင်ခွင့်ရှိသောလုပ်ကွက်၊ အပိုဒ် ၄-၁ တွင် ရည်ညွှန်းဖော်ပြထားခြင်းမရှိ၍ ဌာနမှပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊ ✓

(ခ) စာချုပ် (မူကြမ်း) အပိုင်း (၄) လုပ်ပိုင်ခွင့်ရှိသောလုပ်ကွက်၊ အပိုဒ် ၄-၁ တွင် လုပ်ကွက်ဧရိယာအား(၄၀၃.၉၃)ကေဖြစ်ကြောင်း ဖော်ပြထားသည်ကိုတွေ့ရှိရပါသည်။ စာချုပ် (မူကြမ်း)ပါ နောက်ဆက်တွဲ(က) မြေစာရင်းဦးစီးဌာနမှ ရေးဆွဲထားသောမြေပုံ၌လုပ်ကွက်ဧရိယာအား (၄၁၆.၀၀)ကေ ဟု ဖော်ပြထားရာ လုပ်ကွက်ဧရိယာများ ကွဲလွဲနေ၍ ဌာနမှပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊ ✓

(ဂ) စာချုပ် (မူကြမ်း) အပိုင်း ၅၊ အပိုဒ် ၅-၂ တွင် "သတ္တုတွင်းထူထောင်မှုလုပ်ငန်းကို စာချုပ်လက်မှတ်ရေးထိုးပြီးသည့်နေ့မှစ၍ (၃)လအတွင်း" ဟု ဖော်ပြထားသည်ကိုတွေ့ရှိရပါသည်။ အပိုင်း ၈ ၊ အပိုဒ် ၈-၂ တွင် "ထူထောင်မှုကာလကို စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍(၁)နှစ်သတ်မှတ်ပါသည်" ဟု ဖော်ပြထားသဖြင့် စည်းကမ်းချင်းကွဲလွဲနေ၍ ညီညွတ်မှုရှိစေရေးအတွက် ဌာနမှစိစစ်ရန်ဖြစ်ပါသည်၊ ✓

(ဃ) စာချုပ် (မူကြမ်း) အပိုဒ် ၅-၅ နှင့် ၈-၁ တို့တွင် "ခေတ်မီသောတူးဖော်ထုတ်လုပ်မှုနည်းစနစ်နှင့် အင်ဂျင်နီယာနည်းပညာများနှင့်အညီ" ဟု ဖော်ပြထားရာ ယင်းစကားရပ်မှာ ကျယ်ပြန့်သည်ဟုယူဆပါသဖြင့် နည်းပညာအဆင့်အတန်းနှင့်စပ်လျဉ်းပြီး တိကျစွာကြိုတင်၍ စာချုပ်ဝင်နှစ်ဖက်သတ်မှတ်ထားသင့်ပါသည်၊

(င) စာချုပ် (မူကြမ်း) အပိုဒ် ၆-၁ တွင် "အထက်ဌာန" ဟု ဖော်ပြထားရာ မည်သည်ကို ဆိုလိုကြောင်းရှင်းလင်းမှုမရှိပါ။ အပိုင်း(၃) အဓိပ္ပာယ်ဖွင့်ဆိုချက်တွင်လည်းယင်းစကားရပ်ကိုအဓိပ္ပာယ်ဖွင့်ဆိုထားခြင်းမရှိသဖြင့် ရှင်းလင်းစွာဖော်ပြသင့်ပါသည်၊

(စ) စာချုပ် (မူကြမ်း)ပါ ကွက်လပ်များအား စာချုပ်ချုပ်ဆိုချိန်တွင် ပြည့်စုံစွာဖြည့်စွက်ပြီးဖြစ်ရန်လိုအပ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း)အပိုင်း ၉ စာချုပ်သက်တမ်း၊ အပိုဒ် ၉တွင် သက်တမ်းတိုးမြှင့်အကြိမ်အရေအတွက် ဖော်ပြထားခြင်းမရှိသဖြင့် ထည့်သွင်းရန်လိုအပ်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) အပိုင်း ၁၀၊ အပိုဒ် ၁၀-၁၊ အပိုဒ်ခွဲ(ဠ)တွင် "ကန်ထရိုက်တာသည် EMP, EIA, SIA, HIA စီမံချက်များရေးဆွဲသတ်မှတ်ဆောင်ရွက်ထားရမည်" ဟုဖော်ပြထားရာ စာချုပ်ချုပ်ဆိုအချိန်တွင် စာချုပ်ဝင်နှစ်ဖက်ညှိနှိုင်း ရေးဆွဲသတ်မှတ်ပြီးဖြစ်ရန် လိုအပ်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) အပိုင်း ၁၀၊ အပိုဒ် ၁၀-၁၊ အပိုဒ်ခွဲ(ဃ)တွင် "စွန့်ပစ်မြေနေရာ (Destination) ကို ရွေးချယ်သတ်မှတ်ဆောင်ရွက်ရမည်" ဟုဖော်ပြ ထားရာ အဆိုပါမြေနေရာအား စာချုပ်ချုပ်ဆိုချိန်တွင် တိကျစွာသတ်မှတ်ပြီးဖြစ်ရန်လိုအပ်ပါသည်၊

(ည) စာချုပ် (မူကြမ်း) အပိုင်း ၁၀၊ အပိုဒ် ၁၀-၁၊ အပိုဒ်ခွဲ(န)တွင် "ကန်ထရိုက်တာသည် Mine Closure Plan ပြုစုထားရှိရန်၊ သတ္တုတွင်းလုပ်ကွက်ပိတ်သိမ်းမှုကို Mine Closure Plan အတိုင်းစနစ်တကျအကောင်အထည်ဖော်ဆောင်ရွက်ရန်" ဟု ဖော်ပြထားရာ အဆိုပါ သတ္တုတွင်းလုပ်ကွက် ပိတ်သိမ်းမှုအစီအစဉ်သည် ဌာနမှသဘောတူထားသော အစီအစဉ်ဖြစ်ရန် လိုအပ်ပါသည်။

ယင်းအစီအစဉ်မှာဖော်ပြထား သော်လည်း ပူးတွဲပါရှိခြင်းမရှိ၍ စာချုပ်ဝင်နှစ်ဖက်ညှိနှိုင်းပြီး သတ်မှတ်ဖော်ပြသင့်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း) အပိုင်း(၁၀)၊ အပိုဒ် ၁၀-၂၊ အပိုဒ်ခွဲ(ဓ) တွင် "အပိုင်း(၈)၊ အပိုဒ် ၈-၄ ထုတ်လုပ်မှုလျာထားချက်မပြည့်မီပါက" ဟု ဖော်ပြထားသော်လည်း အပိုဒ် ၈-၄ တွင် ထုတ်လုပ်မှုလျာထားချက်၊ ထုတ်လုပ်မည့်သတ္တုပမာဏအား ဖော်ပြထားခြင်းမရှိ၍ ဌာနမှပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း) အပိုင်း(၂၉)၊ အပိုဒ် ၂၉-၁၁ ပါ စည်းကမ်းချက်သည် အပိုင်း(၁၀)၊ အပိုဒ် ၁၀-၁၊ အပိုဒ်ခွဲ(န) တွင် ဖော်ပြထားသည့် စည်းကမ်းချက်နှင့်တူညီမှုရှိသဖြင့် ပယ်ဖျက်သင့်ပါသည်၊

(ဍ) စာချုပ်(မူကြမ်း) အပိုင်း(၂၉)၊ အပိုဒ် ၂၉-၁၂ တွင် "ကန်ထရိုက်တာသည် EIA, SIA, HIA ပြုစု၍ သတလ(၂)သို့ တင်ပြရန်နှင့် ၄င်းဆန်းစစ်ချက်ပါစီမံချက်ရေးဆွဲပြီးလိုက်နာအကောင်အထည်ဖော်ဆောင်ရွက်မည်ဖြစ်ကြောင်း" ဖော်ပြထားရာ တင်ပြရန်အချိန်ကာလအား စာချုပ်ဝင်နှစ်ဖက်ညှိနှိုင်း၍ ဖော်ပြသင့်ပါသည်။ ထို့ပြင် ယင်းစည်းကမ်းချက်သည် ကန်ထရိုက်တာ၏ တာဝန်ဖြစ်၍ မူလစာချုပ်အပိုင်း(၁၀)၊ အပိုဒ် ၁၀-၁ ကန်ထရိုက်တာ၏ တာဝန်များခေါင်းစဉ်အောက်သို့ ပြောင်းရွှေ့ဖော်ပြသင့်ပါသည်၊

(ဎ) စာချုပ်(မူကြမ်း) အပိုင်း ၃၀ အကျိုးသက်ရောက်မှုတွင် စာချုပ်အကျိုးသက်ရောက်မည့်နေ့အား ကွက်လပ်များဖြင့် ဖော်ပြထားရာ စာချုပ်ချုပ်ဆိုချိန်တွင် ပြည့်စုံစွာဖြည့်စွက်ပြီးဖြစ်ရန်လိုအပ်ပါသည်။ ထို့ပြင် စာချုပ် အကျိုးသက်ရောက်မည့်ကာလသည် စာချုပ်သက်တမ်းနှင့် ကိုက်ညီရန်လိုအပ်ပါသည်၊

(ဏ) စာချုပ်(မူကြမ်း) ပါ နောက်ဆက်တွဲ(ခ)အဖြစ် ပူးတွဲထားသော ဘဏ်အာမခံ ပုံစံသည် သက်ဆိုင်ရာဘဏ်မှသတ်မှတ်ထားသည့်ပုံစံအတိုင်းဖြစ်ရန် လိုအပ်ပြီး စာချုပ်(မူကြမ်း) တွင် ရည်ညွှန်းဖော်ပြထားခြင်းမရှိ၍ ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(တ) လိုအပ်သောနေရာများတွင် မင်နီဖြင့် ပြင်ဆင်ဖြည့်စွက်ပေးလိုက်ပါသည်။

၄။ သစ်တောကြိုးဝိုင်းအတွင်းကျရောက်သော လုပ်ကွက်ဖြစ်ပါက ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနနှင့် ကြိုတင်ညှိနှိုင်းဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါသည်။

၅။ သတ္တုရှာဖွေထုတ်လုပ်ခြင်းလုပ်ငန်းနှင့် ပြည်ပသို့ တင်ပို့ ရောင်းချခြင်း လုပ်ငန်းသည် နိုင်ငံတော်ပိုင်စီးပွားရေးလုပ်ငန်းများဥပဒေပုဒ်မ ၃ အရ နိုင်ငံတော်အစိုးရကသာ လုပ်ပိုင်ခွင့်ရှိသဖြင့် ယင်းဥပဒေ ပုဒ်မ ၄ အရ အစိုးရအဖွဲ့၏ အမိန့်ကြော်ငြာစာဖြင့်ထုတ်ပြန်သည့် ခွင့်ပြုမိန့်ရရှိရန် လိုအပ်ပါသည်။

၆။ စာချုပ်(မူကြမ်း)ပါ ခဲမဖြူ၊ အဖြိုက်နက်ရောရာသတ္တုအကြီးစားတူးဖော်ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရန် အတွက်မြန်မာ့သတ္တုတွင်း ဥပဒေပုဒ်မ ၇ အရ သတ္တုတွင်းဝန်ကြီးဌာနသည် အစိုးရ အဖွဲ့၏ သဘော တူညီချက်ဖြင့် ခွင့်ပြုမိန့် ထုတ်ပေးရန်လိုအပ်မည်ဖြစ်ပါသည်။

၇။ စာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်း အရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့်မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍သက်ဆိုင်ရာကျွမ်းကျင်သူများနှင့်ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန်အကြံပြုပါသည်။

၈။ သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်သည် ဥပဒေအရ တရားဝင်ဖွဲ့စည်းထားသောကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကိုလုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေး

အင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင်လက်မှတ်ရေးထိုးမည့်သူသည် တရားဝင် လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ် စသည့်အချက်များနှင့် စပ်လျဉ်း၍ ကြိုတင်စိစစ်ရန်လိုအပ်မည်ဖြစ် ပါသည်။

၉။ ဤ စာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန် အတွက် ဤရုံး သို့ မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

12/7/2014

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
( မေသီလင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ် )

ဦးဆောင်ညွှန်ကြားရေးမှူး
အမှတ်(၂)သတ္တုတွင်းလုပ်ငန်း

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

သတ္တုတွင်းဝန်ကြီးဌာန

အမှတ်(၂)သတ္တုတွင်းလုပ်ငန်း

နှင့်

သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်

တို့၏

တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊

ပကာရီကျေးရွာအုပ်စုရှိ

ပကာရီဆင်းတွင်းကြီးသတ္တုလုပ်ကွက်တွင်

ထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့်

ခဲမဖြူအဖြိုက်နက်နှင့်ရောရောသတ္တုအကြီးစားတူးဖေါ်ထုတ်လုပ်မှုလုပ်ငန်း

သဘောတူစာချုပ်

နေပြည်တော်

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ လ၊ ရက်

## မာတိကာ

## မာတိကာ

# ခဲမဖြူ၊ အဖြိုက်နက်နှင့်ရောရာသတ္တုအကြီးစား ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်လုပ်ငန်း သဘောတူစာချုပ်

ဤသဘောတူစာချုပ်ကို ၂၀၁၄ ခုနှစ်၊ လ၊ ( )ရက်နေ့တွင် နေပြည်တော်၌ ဦးသံဒိုင်၊ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော အမှတ်(၂)သတ္တုတွင်းလုပ်ငန်း၊ သတ္တုတွင်းဝန်ကြီးဌာန၊ နေပြည်တော်(နောင်တွင် "သတလ(၂)"ဟု ခေါ်ဆိုမည်ဖြစ်ပြီး၊ ယင်းစကားရပ်၌ ၎င်းအားဆက်ခံသူများ၊ ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်) ကတစ်ဖက်နှင့် ဦးစိုင်းအောင်သန်း၊ မန်နေးဂျင်းဒါရိုက်တာ နိုင်ငံသားစိစစ်ရေးကဒ်ပြားအမှတ်၊ ၁၃/လရန(နိုင်)၀၅၅၀၀၄၊ မန်နေးဂျင်းဒါရိုက်တာ ကိုယ်စားပြုသော သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက် အမှတ်(၄၃၄)၊ အကွက်အမှတ်(၄၃၃)၊ ၇၆ လမ်း၊ ၃၂ လမ်းနှင့် ၃၃ လမ်းကြား၊ ကဠာဏမဟီရပ်ကွက်၊ ချမ်းအေးသာစံမြို့နယ်၊ မန္တလေးမြို့ (နောင်တွင် "ကန်ထရိုက်တာ"ဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်းအားဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များ၊ ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်)က တခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များနှင့်အညီ ဤသဘောတူစာချုပ်ကို ချုပ်ဆိုကြပါသည်။

## အပိုင်း ( ၁ )
## ရည်ရွယ်ချက်

၁။ အောက်ပါအတိုင်း ရည်ရွယ်ချက် ထားရှိပါသည် -

(က) နှစ်ဦးနှစ်ဖက်ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားမှုစနစ်ကို အခြေခံ၍ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရမှ လုပ်ပိုင်ခွင့်ချမှတ်ပေးသည့် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာအုပ်စုရှိ ပကာရီဆင်းတွင်းကြီးသတ္တုလုပ်ကွက်အား ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုများ အကြီးစားတူးဖော်ထုတ်လုပ်ခြင်းနှင့် ဆင့်တက်ပြုပြင်ခြင်း လုပ်ငန်းတို့အား အမှတ်(၂)သတလနှင့် ကန်ထရိုက်တာတို့ ပူးပေါင်းဆောင်ရွက်ရန်။

(ခ) တနင်္သာရီတိုင်းဒေသကြီး၊ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာအုပ်စုရှိ ပကာရီဆင်းတွင်းကြီးသတ္တုလုပ်ကွက်အား မြန်မာနိုင်ငံသားများဖြင့် ဖွဲ့စည်းထားသောကုမ္ပဏီနှင့် ပူးပေါင်းပြီး တူးဖော်ထုတ်လုပ်ရေး လုပ်ငန်းများကို လုပ်ကိုင်ခြင်းအားဖြင့် နိုင်ငံတော်မှ သတ္တုထုတ်ကုန် တိုးတက်ရရှိစေရေး၊ ပြည်ပပို့ကုန်တိုးမြှင့်ရရှိနိုင်ရေး၊ နိုင်ငံခြားဝင်ငွေ တိုးတက်ရရှိစေရေးနှင့် နိုင်ငံတော်၏သတ္တု ကဏ္ဍဖွံ့ဖြိုးတိုးတက်နိုင်စေရန်။

(ဂ) တနင်္သာရီတိုင်းဒေသကြီး၊ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာအုပ်စုရှိ ပကာရီဆင်းတွင်းကြီးသတ္တုလုပ်ကွက်တွင် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တု တူးဖော်ထုတ်လုပ်ခြင်းနှင့် ဆင့်တက်ပြုပြင်ခြင်း လုပ်ငန်းဆောင်ရွက်ခြင်းအားဖြင့် ဒေသဖွံ့ဖြိုးတိုးတက်လာစေရန်နှင့် သတ္တုတူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်းဖြင့် အသက်မွေးဝမ်းကျောင်း ပြုလုပ်သည့် ဝန်ထမ်းများနှင့် ဒေသခံပြည်သူတို့ အလုပ်အကိုင်အသစ်များရရှိပြီး လူမှုရေး၊ စီးပွားရေး ဖွံ့ဖြိုးတိုးတက်လာစေရန်။

(ဃ) ခဲမဖြူ၊အဖြိုက်နက်နှင့် ရောရာသတ္တုတူးဖော်ထုတ်လုပ်ခြင်းဆင့်တက်ပြုပြင်ခြင်း လုပ်ငန်းနှင့် သက်ဆိုင်သော စီမံခန့်ခွဲခြင်း၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များ ဆောင်ရွက်ခြင်းတို့အတွက် ငွေကြေးကုန်ကျစရိတ်များကိုကျခံရန်ကန်ထရိုက်တာကတာဝန်ယူစေပြီး အပိုင်း(၄)တွင်ဖော်ပြထားသည့်စာချုပ်အရ လုပ်ပိုင်ခွင့်ရှိသော လုပ်ကွက်တွင်တူးဖော်ထုတ်လုပ်ခွင့်နှင့် တည်ဆဲဥပဒေ လုပ်ထုံးများနှင့်အညီ ပြည်တွင်းပြည်ပရောင်းချခွင့်တို့ရရှိစေရန်ကိစ္စများကို သတလ(၂)မှ တာဝန်ယူလျက် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် ဆောင်ရွက်ကြရန်။

## အပိုင်း ( ၂ )
## ကိုယ်စားပြုခြင်းနှင့်အာမခံခြင်း

၂။ လုပ်ငန်းသဘောတူစာချုပ်ကို ချုပ်ဆိုကြသော လုပ်ငန်းသဘောတူစာချုပ်ဝင်တို့သည် လုပ်ငန်းသဘောတူစာချုပ်ချုပ်ဆိုရန်အတွက် တည်ဆဲဥပဒေများအရ လုပ်ပိုင်ခွင့်၊ အခွင့်အာဏာနှင့် စီးပွားရေးအရ ခိုင်မာတောင့်တင်းခြင်းရှိကြောင်းကို အသီးသီးကိုယ်စားပြု အာမခံကြပါသည်။

## အပိုင်း ( ၃ )
## အဓိပ္ပာယ်ဖွင့်ဆိုချက်

၃-၁။ လုပ်ငန်းသဘောတူစာချုပ်တွင် အသုံးပြုမည့် စကားရပ်များကို အောက်ပါအတိုင်း အဓိပ္ပာယ်ကောက်ယူရမည် -

(က) " သတ္တုရိုင်း(Ore)" ဆိုသည်မှာ လုပ်ငန်းသဘောတူစာချုပ်အရ လုပ်ပိုင်ခွင့်ရှိသော လုပ်ကွက်အတွင်းမှတွင်းထွက်အတိုင်း ထုတ်ယူရရှိသော ခဲမဖြူနှင့် အဖြိုက်နက်သတ္တုရိုင်းကို ဆိုလိုသည်။

(ခ) ခဲမဖြူသတ္တုသန့်စင် (Tin Concentrate)ဆိုသည်မှာ ခဲမဖြူ(Sn 65%)ထက်မနည်းပါဝင်သည့် သတ္တုသန့်စင်ကို ဆိုလိုသည်။

(ဂ) အဖြိုက်နက်သတ္တုသန့်စင်(Tungsten Concentrate)ဆိုသည်မှာ ($WO_3$ 65%)ထက်မနည်းပါဝင်သည့်သတ္တုသန့်စင်ကို ဆိုလိုသည်။

(ဃ) ခဲမဖြူ အဖြိုက်နက်၊ ရောရာသတ္တုသန့်စင်(Tin & Tungsten Mixed Concentrate) ဆိုသည်မှာ ခဲမဖြူ၊ အဖြိုက်နက်နှင့်ရောရာသတ္တုစုစုပေါင်း၏ (65%)ထက်မနည်းပါဝင်သည့် ရောရာသတ္တုသန့်စင်ကို ဆိုလိုသည်။

(င) ဆက်စပ်သတ္တု "(Associated Minerals)" ဆိုသည်မှာ လုပ်ငန်းသဘောတူစာချုပ်အရ လုပ်ပိုင်ခွင့်ရှိသော လုပ်ကွက်အတွင်းရှိ ခဲမဖြူအဖြိုက်နက်သတ္တုရိုင်းများနှင့်အတူ ဘူမိဗေဒဖြစ်စဉ်အရ တွဲစပ်ပါဝင်လျက်ရှိသော တွင်းထွက်သတ္တုရိုင်းများကိုဆိုလိုသည်။

(စ) "ဘဏ္ဍာရေးနှစ်" ဆိုသည်မှာ နှစ်စဉ် ပြက္ခဒိန်နှစ် တစ်နှစ်၏ ဧပြီလ (၁)ရက်နေ့မှအစပြု၍ နောင်လာမည့်နှစ်၏ မတ်လ( ၃၁ )ရက်နေ့အထိ (၁၂)လတာ ကာလကို ဆိုလိုသည်။

(ဆ) ဝန်ကြီးဌာနဆိုသည်မှာ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ သတ္တုတွင်းဝန်ကြီးဌာနကို ဆိုလိုသည်။

(ဇ) "တန်ချိန်" ဆိုသည်မှာ ကီလိုဂရမ်(၁၀၀၀)ရှိသော တစ်မက်ထရစ်တန်ကို ဆိုလိုသည်။

၃-၂။ ထုတ်လုပ်မှုလုပ်ငန်းဆိုသည်မှာ ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုရိုင်းကို စီးပွားဖြစ်ထုတ်လုပ်နိုင်ရေးအတွက် ပြင်ဆင်ရေးကာလတွင် ဆောင်ရွက်ရမည့်လုပ်ငန်းအားလုံးကို ဆိုလိုသည်။

## အပိုင်း ( ၄ )
## လုပ်ပိုင်ခွင့်ရှိသော လုပ်ကွက်

၄-၁။ လုပ်ငန်းသဘောတူစာချုပ်အရ လုပ်ပိုင်ခွင့်ရှိသော ပကာရီဆင်းတွင်းကြီးသတ္တုလုပ်ကွက်သည် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာအုပ်စုတွင်ရှိပြီး နောက်ဆက်တွဲ(က)နှင့် နောက်ဆက်တွဲ(ခ)တို့တွင် မြေပုံညွှန်းနှင့်တကွဖော်ပြထားသည့် ဧရိယာ(၄၀၃.၉၃)ဧကရှိ နယ်နိမိတ်အတိုင်း ဖြစ်သည်။

၄-၂။ အကယ်၍ အထက်အပိုဒ် ၄-၁ တွင် ဖော်ပြထားသောလုပ်ကွက်ကို နိုင်ငံတော်အစိုးရမှ စီမံကိန်းတစ်ခုခုအလို့ငှာ အသုံးပြုရန်လိုအပ်ခဲ့လျှင် ကန်ထရိုက်တာဖြစ်သူက မိမိလက်ဝယ်ရယူထားသော လုပ်ကွက်ကို အစိုးရသို့ပြန်လည်အပ်နှံရမည်ဖြစ်ပြီး သင့်လျော်သောဓာတ်သတ္တုလုပ်ကွက်ကို ကန်ထရိုက်တာ နစ်နာမှုမရှိစေရန် နှစ်ဦးနှစ်ဖက်ညှိနှိုင်း ဆောင်ရွက်ရမည်။

## အပိုင်း ( ၅ )
## လုပ်ငန်းအစီအစဉ်

၅-၁။ ကန်ထရိုက်တာသည် ခဲမဖြူ၊ အဖြိုက်နက်နှင့်ရောရာသတ္တုတူးဖော်ထုတ်လုပ်ခြင်း လုပ်ငန်းအတွက် သတ္တုတွင်းထူထောင်မှုနှင့် ထုတ်လုပ်မှုအပါအဝင် လုပ်ငန်းအစီအစဉ်များရေးဆွဲ၍ လုပ်ငန်းသဘောတူစာချုပ်လက်မှတ်ရေးထိုးပြီး (၁)လအတွင်း သတလ(၂)နှင့် သတ္တုတွင်းဦးစီးဌာနသို့ တင်ပြရမည်။

၅-၂။ သတ္တုတွင်းထူထောင်မှုလုပ်ငန်းကို လုပ်ငန်းသဘောတူစာချုပ် လက်မှတ်ရေးထိုးပြီးသည့်နေ့မှ (၃)လအတွင်း အပိုဒ် ၅-၁ပါ လုပ်ငန်းအစီအစဉ်များအတိုင်းဆောင်ရွက်ရမည်။

၅-၃။ ကန်ထရိုက်တာမှတင်ပြသော လုပ်ငန်းအစီအစဉ်များကို နှစ်ဦးနှစ်ဖက်ညှိနှိုင်း သဘောတူအတည်ပြုချက်ရရှိပြီးသည်နှင့် စတင်အကောင်အထည်ဖော်ရမည်။ ထိုသို့အတည်ပြုထားသော လုပ်ငန်းအစီအစဉ်များသည် လုပ်ငန်းသဘောတူစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သည်။

၅-၄။ အတည်ပြုပြီးသော လုပ်ငန်းအစီအစဉ်အား ပြင်ဆင်ဖြည့်စွက်လိုပါက ဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ပြုလုပ်နိုင်သည်။

၅-၅။ ကန်ထရိုက်တာသည် အထက်ပါလုပ်ငန်းအဆင့်များကို အထိရောက်ဆုံးနှင့် ဓာတ်သတ္တုတူးဖော်မှုလုပ်ငန်းကြီးများဆောင်ရွက်နေသည့် ကုမ္ပဏီများ၏ ခေတ်မီသောတူးဖော်ထုတ်လုပ်မှုနည်းစနစ်နှင့် အင်ဂျင်နီယာနည်းပညာများနှင့်အညီ အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

## အပိုင်း ( ၆ )
## နိုင်ငံခြားသားပညာရှင်များခေါ်ယူခြင်းနှင့် လုပ်ငန်းသုံးစက်ပစ္စည်းကိရိယာများ

၆-၁။ ကန်ထရိုက်တာသည် လုပ်ငန်းအထောက်အကူပြု နိုင်ငံခြားသားပညာရှင်များခေါ်ယူခွင့်တင်ပြလာပါက သတလ-၂ မှ ဝန်ကြီးဌာန၏ထောက်ခံချက်ဖြင့် သက်ဆိုင်ရာဝန်ကြီးဌာနများသို့ ညှိနှိုင်းဆောင်ရွက်ပေးရမည်။

၆-၂။ နိုင်ငံခြားသားပညာရှင်များသည် မြန်မာနိုင်ငံအတွင်းရှိနေစဉ် မြန်မာနိုင်ငံ၏တည်ဆဲဥပဒေများ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ အမိန့်ကြော်ငြာစာများ၊ ညွှန်ကြားချက်များကို လေးစားလိုက်နာ၍ ပြည်တွင်းရေးရာကို ဝင်ရောက်စွက်ဖက်ခြင်းမရှိစေရန် ကန်ထရိုက်တာမှတာဝန်ယူရမည်။

၆-၃။ ကန်ထရိုက်တာသည် စာချုပ်အရ ဆောင်ရွက်မည့်တူးဖော်မှုလုပ်ငန်းအတွက် အသုံးပြုမည့်စက်၊ စက်ပစ္စည်းများ၊ ယာဉ်ယန္တရားများကို ပြည်ပမှတင်သွင်းရန်ရှိပါက ဝန်ကြီးဌာနသို့တင်ပြပြီး မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူခွင့်ပြုချက်ရရှိမှသာ တင်သွင်းခွင့်ရှိသည်။

၆-၄။ အပိုဒ်၆-၁အရ 'ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်" အတွင်း တင်သွင်းလာသည့်စက်ပစ္စည်းကိရိယာများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီချက်မရဘဲ ပြန်လည်ရောင်းချခြင်းမပြုရ။

## အပိုင်း ( ၇ )
## ရင်းနှီးမြှုပ်နှံမှုပမာဏ

၇-၁။ ကန်ထရိုက်တာသည် စာချုပ်အပိုင်း(၅) အပိုဒ် ၅-၁ပါလုပ်ငန်းအစီအစဉ်များအတွက် အနည်းဆုံး ရင်းနှီးမြှုပ်နှံမှုငွေ(ကျပ်သန်းငါးရာ)ကိုရင်းနှီးမြှုပ်နှံရမည်။ ရင်းနှီးမြှုပ်နှံမှုငွေ တစ်ရပ်လုံးကို ကန်ထရိုက်တာမှကျခံရမည်။

၇-၂။ ကန်ထရိုက်တာ၏ ရင်းနှီးမြှုပ်နှံမှုပမာဏကို တွက်ချက်သတ်မှတ်ရာတွင် သတလ(၂)မှ ကန်ထရိုက်တာသို့ လွှဲပြောင်းပေးသည့် ပုံသေပိုင်ပစ္စည်းများရှိပါက ၎င်း၏တန်ဘိုးကို ထည့်သွင်းတွက်ချက်ခြင်းမပြုရ။

## အပိုင်း ( ၈ )
## ထူထောင်မှုနှင့် တူးဖော်ထုတ်လုပ်ခြင်း

၈-၁။ ကန်ထရိုက်တာသည် ဓာတ်သတ္တုတူးဖော်မှုလုပ်ငန်းကြီးများဆောင်ရွက်နေသည့် ကုမ္ပဏီများ၏ ခေတ်မီသောတူးဖော်ထုတ်လုပ်မှုနည်းစနစ်နှင့် အင်ဂျင်နီယာနည်းပညာများနှင့်အညီ ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုထုတ်လုပ်ရေးအတွက် အထက်အပိုင်း(၅)၊ အပိုဒ်ခွဲ ၅- ၁ ပါ အတည်ပြုပြီးဖြစ်သော လုပ်ငန်းအစီအစဉ်များအတိုင်း ဆောင်ရွက်ရမည်။

၈-၂။ ထူထောင်မှုကာလကို စာချုပ်လက်မှတ်ရေးထိုးသည့် နေ့မှစ၍ (၁)နှစ်သတ်မှတ်ပါသည်။ ကျန်စာချုပ်ပါကာလသည် တူးဖော်ထုတ်လုပ်မှုကာလဖြစ်ပါသည်။

၈-၃။ အကယ်၍ ထူထောင်မှုကာလအတွင်း သတ္တုထုတ်လုပ်မှုရှိပါက စာချုပ်၏ အပိုဒ်(၁၂-၁)ပါ ခွဲဝေမှုအချိုးအတိုင်း ဌာနနှင့်ကုမ္ပဏီတို့မှ ခွဲဝေရမည်။

၈-၄။ တူးဖော်ထုတ်လုပ်သည့် ခဲမဖြူသတ္တုသန့်စင်တွင် ခဲမဖြူသတ္တုပါဝင်မှုအနည်းဆုံး Sn 65% နှင့် အဖြိုက်နက်သတ္တုသန့်စင်တွင် $WO_3$ ပါဝင်မှုအနည်းဆုံး 65% ရှိစေရမည်။ ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုသန့်စင်တွင် (၂)မျိုးပေါင်း အနည်းဆုံး(၆၅%)ရှိစေရမည်။

## အပိုင်း (၉)
## စာချုပ်သက်တမ်း

၉။ လုပ်ငန်းသဘောတူစာချုပ်အရ ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုတူးဖော်ထုတ်လုပ်ခြင်း လုပ်ငန်း များအတွက် ခွင့်ပြုသည့်ကာလမှာ သတ္တုတွင်းဝန်ကြီးဌာနမှထုတ်ပေးသည့် ဓာတ်သတ္တုအကြီးစား ထုတ်ယူရန်ခွင့်ပြုမိန့်ပါ လုပ်ငန်းစတင်လုပ်ကိုင်ခွင့်ပြုသည့်ရက်မှစ၍ (၁၀)နှစ်ဖြစ်သည်။ သက်တမ်းတိုးလိုပါက သတ်မှတ်ထားသော ခွင့်ပြုကာလမကုန်ဆုံးမီ (၆)လအလိုတွင် ကန်ထရိုက်တာသည် မြန်မာ့သတ္တုတွင်းနည်း ဥပဒေများနှင့်အညီ တစ်ကြိမ်လျှင် (၅)နှစ်ထက်မပိုသော သက်တမ်းကို သတလ(၂)မှတစ်ဆင့် ဝန်ကြီးဌာနသို့ လျှောက်ထားနိုင်သည်။

## အပိုင်း (၁၀)
## အထွေထွေတာဝန်များ

၁၀-၁။ **ကန်ထရိုက်တာ၏ တာဝန်များ**

ကန်ထရိုက်တာသည် အောက်ပါတို့ကို တာဝန်ယူရမည် -

(က) သတလ(၂)သို့ တင်ပြအတည်ပြုထားသည့် လုပ်ငန်းအစီအစဉ်များအရ ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုတူးဖော်ထုတ်လုပ်ရာတွင် ကုန်ကျစရိတ် သယ်ယူပို့ဆောင်မှု ကုန်ကျစရိတ်နှင့် အခြား အထွေထွေ ကုန်ကျစရိတ်များ အားလုံးကို ကျခံရမည်။

(ခ) လုပ်ငန်းသဘောတူစာချုပ်အရ လုပ်ပိုင်ခွင့်ရှိသော လုပ်ကွက်၌ အထက်အပိုဒ် ၅-၁ ပါ အတည်ပြုပြီးသော လုပ်ငန်းအစီအစဉ်များအတိုင်းသာ တူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်းကို ပြုလုပ်ရမည်။

(ဂ) တူးဖော်ထုတ်လုပ်ခြင်း လုပ်ငန်းများကို ကောင်းမွန်မှန်ကန်သော သတ္တုတူးဖော်မှုအတွေ့ အကြုံများကိုအခြေခံ၍ သတ္တုသိုက်လေလွင့်ဆုံးရှုံးမှုမရှိစေသော အကောင်းဆုံးနည်းစနစ် များကို လိုက်နာဆောင်ရွက်ရန်နှင့် နောင်ဆက်လက်ဆောင်ရွက်ရမည့် ထုတ်လုပ်မှုလုပ်ငန်း များကို မထိခိုက်အောင် ဆောင်ရွက်ရမည်။

(ဃ) သတ်မှတ်ခွင့်ပြုထားသောလုပ်ကွက် (နောက်ဆက်တွဲ-က)ပါ တူးဖော်ထုတ်လုပ်မည့်ဧရိယာ အတွင်း၌သာ ခဲမဖြူ၊ အဖြိုက်နက်နှင့်ရောရာသတ္တုတူးဖော်ထုတ်လုပ်ရမည်။

(င) ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုများ တူးဖော်ထုတ်လုပ်မှု ဆောင်ရွက်ရာတွင် ကုန်ထုတ်လုပ်မှုစွမ်းအား အပြည့်အဝ ရရှိနိုင်ရေးအတွက် လုပ်ငန်းကျွမ်းကျင်သူများကို လုံလောက်စွာခန့်ထားရမည်။

(စ) လုပ်ငန်းအစီအစဉ်များကိုဆောင်ရွက်ရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားသော မြန်မာ့သတ္တုတွင်း ဥပဒေ၊ နည်းဥပဒေများနှင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ၏ တည်ဆဲဥပဒေများ၊

နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ အမိန့်ကြော်ငြာစာများ၊ ညွှန်ကြားချက်များနှင့်အညီ ဆောင်ရွက်ရမည်။

(ဆ) ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုများ တူးဖော်ထုတ်လုပ်ခြင်း၊ သိုလှောင်ခြင်း၊ သယ်ယူရောင်းချခြင်း၊ ကျွမ်းကျင်မှုဆိုင်ရာ သုံးသပ်ချက်တို့နှင့်ပတ်သက်သည့် အစီရင်ခံစာကို (၆)လလျှင်တစ်ကြိမ်ပေးပို့ရမည်။ ထို့ပြင် နှစ်ချုပ်အစီရင်ခံစာများကိုလည်း ဘဏ္ဍာရေးနှစ်ကုန်ဆုံးသည့်နေ့မှ တစ်လအတွင်း အထက်အပိုဒ် ၁၀-၁ (ဆ)ပါအတိုင်း အချိန်မှန်မှန်ပေးပို့ရမည်။

(ဇ) လုပ်ပိုင်ခွင့်ရှိသော လုပ်ကွက်ဧရိယာနယ်နိမိတ်အတွင်းရှိ သစ်ပင်များကိုသစ်တောဦးစီးဌာန၏ခွင့်ပြုချက်မရရှိဘဲ ခုတ်လှဲခြင်းမပြုရ။ လုပ်ကွက်ရှိ မလွတ်ကင်းသောသစ်ပင်များကို ခုတ်လှဲရန်လိုအပ်ပါက သစ်တောဦးစီးဌာန၏ ကြိုတင်ခွင့်ပြုချက်ရယူရန်နှင့် ခုတ်လှဲသော သစ်ပင်များကိုအသုံးပြုလိုပါက သစ်တောဦးစီးဌာနမှ သတ်မှတ်ထားသောဈေးနှုန်းဖြင့် ပေးချေဝယ်ယူရမည်။

(ဈ) ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုစတင်တူးဖော်မှုလုပ်ငန်းမှထွက်ရှိသည့် အပေါ်ယံမြေဆီလွှာများ(Cultivated Soil)ကို စနစ်တကျစုပုံထိန်းသိမ်းထားရှိ၍ သတ္တုတွင်းပိတ်သိမ်းချိန်တွင် တူးဖော်ထားသည့် ကျင်း၊ ချိုင့်၊ ကလိုင်များ မြေဖို့ရာတွင်ပြန်လည်အသုံးပြုပြီး လုပ်ငန်းမစတင်မီက သဘာဝပတ်ဝန်းကျင်အခြေအနေအတိုင်း သစ်တော၊ သစ်ပင်များကိုရှင်သန်သည်အထိ ပြန်လည်စိုက်ပျိုးပေးရန် ကန်ထရိုက်တာမှ တာဝန်ယူပေးရမည်။

(ည) ခွင့်ပြုချက်မရှိဘဲနှင့် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုတူးဖော်ရန် သတ်မှတ်ထားသည့်ဧရိယာအတွင်း၌သော်လည်းကောင်း၊ အပြင်၌သော်လည်းကောင်း သစ်ပင်ခုတ်လျှင် ဥပဒေအရ အရေးယူခြင်းနှင့် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုတူးဖော်ခွင့် ဖျက်သိမ်းသည်အထိ ပြင်းထန်စွာ အရေးယူခြင်းတို့ကို ကန်ထရိုက်တာမှ သဘောတူလက်ခံရမည်။

(ဋ) တူးဖော်ထုတ်လုပ်မှုလုပ်ငန်းအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှလက်ခံကျင့်သုံးသည့် စံချိန်စံညွှန်းနှင့်အညီ ရေးဆွဲတင်ပြပြီးဖြစ်သည့် သဘာဝပတ်ဝန်းကျင်ထိခိုက်ပျက်စီး အကျိုးသက်ရောက်မှုအားလေ့လာဆန်းစစ်ခြင်း (Environment Impact Assessment- EIA)၊ ပတ်ဝန်းကျင်ပြည်သူလူထု၏ လူမှုပတ်ဝန်းကျင်ထိခိုက်ပျက်စီး အကျိုးသက်ရောက်မှု ဆန်းစစ်လေ့လာခြင်း (Social Inpact Assessment- SIA)၊ ပတ်ဝန်းကျင်ပြည်သူလူထု၏ ကျန်းမာရေးထိခိုက်အကျိုးသက်ရောက်မှုအားဆန်းစစ်လေ့လာခြင်း (Health Impact Assessment- HIA)တို့အရ

ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံခန့်ခွဲမှုစီမံချက် (Environmental Management Plan)ကို ထုတ်လုပ်မှုလုပ်ငန်းမစတင်မီ သတလ- ၂ သို့တင်ပြရမည်။

(ဍ) ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုတူးဖော်ခြင်းမှထွက်ရှိလာသော စွန့်ပစ်ပစ္စည်းများသည် မြစ်၊ ချောင်း၊ အင်းအိုင်များကိုသော်လည်းကောင်း၊ အများပြည်သူတို့နှင့် သက်ဆိုင်သော လမ်းများ၊ အဆောက်အဦးများကိုသော်လည်းကောင်း ညစ်ညမ်းမှု၊ ပိတ်ဆို့မှုနှင့်အခြား ပတ်ဝန်းကျင် ညစ်ညမ်းထိခိုက်မှုများမရှိစေရန် ဆောင်ရွက်ရမည်။

(ဎ) ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုများ တူးဖော်ခြင်းမှထွက်ရှိလာသော စွန့်ပစ်ပစ္စည်းများကြောင့် မြစ်ချောင်း၊ အင်းအိုင်များကို ပိတ်ဆို့ခြင်း၊ ရေစီးလမ်းပြောင်းလဲခြင်း၊ အများပြည်သူအသုံးပြုသော ရေရရှိနိုင်မှုတို့ကို ထိခိုက်စေခြင်းများ မရှိစေရ။

(ဏ) ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုတူးဖော်ထုတ်လုပ်မှုကြောင့် စွန့်ပစ်မြေစာများသည် ပတ်ဝန်းကျင်လယ်ယာမြေများ၏ မြေဆီလွှာထိခိုက်ပျက်စီးမှုနှင့် မြစ်ချောင်းများညစ်ညမ်းမှုတို့ကြောင့် ဒေသခံပြည်သူများ၏ လူမှုစီးပွားထိခိုက်ပျက်စီးမှုမဖြစ်ပေါ်စေရန်အတွက် စွန့်ပစ်မည့်မြေနေရာ (Destination)ကို ထုတ်လုပ်မှုလုပ်ငန်းမစတင်မီ သတလ- ၂ နှင့် ညှိနှိုင်းရွေးချယ်သတ်မှတ်ရမည်။

(တ) အပိုင်း(၈)၊ အပိုဒ် ၈-၄ ပါ ထုတ်လုပ်မှုလျာထားချက်အား ပြည့်မီကျော်လွန်အောင်ထုတ်လုပ်သွားရန်နှင့် လျာထားချက်မပြည့်မီပါက မပြည့်မီရသည့်အကြောင်းကို ကျိုးကြောင်းဖော်ပြပြီး သတလ(၂)သို့ တင်ပြသွားရမည်။

(ထ) သတ်မှတ်စည်းကမ်းဘောင်အတွင်း မြေပိုင်ဆိုင်မှုနှင့်သက်ဆိုင်သော လုပ်ငန်းလုပ်ကိုင်ခွင့်နှင့်သက်ဆိုင်သော အငြင်းပွားမှုများ၊ စောဒကတက်မှုများ ဖြစ်ပွားပါက ကန်ထရိုက်တာမှသာ တာဝန်ယူဖြေရှင်းရန်၊ မဖြေရှင်းနိုင်ပါက လုပ်ကိုင်ခွင့်ရုပ်သိမ်းခြင်း၊ ပေးသွင်းထားသည့် အခွန်အခနှင့် အခြားပေးသွင်းမှုများသိမ်းယူခြင်း၊ လုပ်ကွက်ပြန်လည်သိမ်းယူခြင်းခံရမည်ကို သဘောတူဝန်ခံကတိပြုရမည်။

(ဒ) သတ်မှတ်ခွင့်ပြုထားသည့် လုပ်ကွက်ဧရိယာအတွင်း အခိုင်အမာ အဆောက်အဦးများ တည်ဆောက်ခြင်း၊ ဘာသာရေးဆိုင်ရာ အဆောက်အဦးများ ဆောက်လုပ်ခြင်းနှင့် လူနေကျေးရွာတည်ထောင်ခြင်းများ မပြုလုပ်ရ။

(ဓ) ကန်ထရိုက်တာသည် ဤသဘောတူစာချုပ်အရ လုပ်ကိုင်၍ထွက်ရှိလာမည့် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုသန့်စင်များအတွက် ဓာတ်သတ္တုခွန်(၄%)ကိုသော်လည်းကောင်း၊ သတ်မှတ်ဌာနအချိုးသော်လည်းကောင်း၊ သတ္တုအနေဖြင့်ဖြစ်စေ၊ သတ်မှတ်ထားသော ငွေတန်ဖိုးဖြင့်ဖြစ်စေ ပေးဆောင်ရမည်။ ကန်ထရိုက်တာသည် ပုံသေမြေငှားရမ်းခ၊ ဓာတ်သတ္တုခွန်နှင့် သတလ(၂)ဝေစုအချိုးများကို သတ်မှတ်ရက်အတွင်း အပြည့်အဝ ပေးသွင်းရမည်။

(ဓ) ကန်ထရိုက်တာသည် သတ္တုတူးဖော်ထုတ်လုပ်ရေးအတွက် အလုပ်သမားများခန့်ထားခဲ့ပါက အလုပ်သမားများ၏ ရေးရာကိစ္စရပ်များနှင့် ပတ်သက်၍ အလုပ်သမားဝန်ကြီးဌာနမှ သတ်မှတ်ပြဋ္ဌာန်းမှုများနှင့်အညီ ဆောင်ရွက်ရမည်။

(န) ကန်ထရိုက်တာသည် ထုတ်လုပ်မှုလုပ်ငန်းမစတင်မီ သတ္တုတွင်းလုပ်ကွက်ပိတ်သိမ်းမည့် အစီအစဉ်(Mine Closer Plan)ကိုပြုစု၍ သတလ- ၂ သို့ တင်ပြရန်နှင့် ဤသဘောတူ စာချုပ်သက်တမ်းကုန်ဆုံးလျှင်သော်လည်းကောင်း၊ အကြောင်းတစ်ရပ်ရပ်ကြောင့် လုပ်ငန်း ရပ်စဲ၍စာချုပ်အား ရပ်စဲလျှင်သော်လည်းကောင်း၊ သတ္တုတွင်းလုပ်ကွက် ပိတ်သိမ်းမှုကို သတ္တုတွင်းလုပ်ကွက်ပိတ်သိမ်းမည့် အစီအစဉ်အတိုင်းစနစ်တကျအကောင်အထည်ဖော် ဆောင်ရွက်ရမည်။

၁၀-၂။ **သတလ(၂)၏ တာဝန်များ**

သတလ(၂)သည် အောက်ပါတို့ကို တာဝန်ယူရမည် -

(က) ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုတူးဖော်ထုတ်လုပ်ခြင်းအတွက်လိုအပ်သည့် ယမ်းဘီလူး နှင့် ဆက်စပ်ပစ္စည်းများ ဝယ်ယူရရှိရေး၊ သုံးစွဲနိုင်ရေးအတွက် ကူညီပေးရမည်။

(ခ) ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုတူးဖော်မှုလုပ်ငန်းတွင် ကန်ထရိုက်တာမှ ဌာနဆိုင်ရာ ခွင့်ပြုချက်များရရှိစေရန် လိုအပ်သလို ညှိနှိုင်းပံ့ပိုး ကူညီဆောင်ရွက်ပေးရမည်။

(ဂ) ကန်ထရိုက်တာမှ သတလ(၂)ထံမှ ကျွမ်းကျင်သူများ၏ အကူအညီတောင်းခံလာပါက နှစ်ဖက်ညှိနှိုင်း ပံ့ပိုးဆောင်ရွက်ပေးရမည်။

(ဃ) လုပ်ငန်းသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးပြီး သတလ(၂)သို့ စာချုပ်လက်မှတ် ရေးထိုးမှု ဆုကြေးငွေပေးသွင်းပြီးသည့်နေ့မှစ၍ (၂၁)ရက်အတွင်း ကန်ထရိုက်တာသို့ ပကာရီဆင်းတွင်းကြီးသတ္တုလုပ်ကွက်၏ တူးဖော်လုပ်ကိုင်ခွင့်ကို စနစ်တကျလွှဲပြောင်းပေးရမည်။

(င) ကန်ထရိုက်တာမှ ပြည်ပသို့တင်ပို့ရောင်းချခြင်းဖြင့် ရရှိသောနိုင်ငံခြားငွေကို ဘဏ်စာရင်း ဖွင့်လှစ်ရန် ကူညီဆောင်ရွက်ပေးရမည်။

(စ) ကန်ထရိုက်တာသို့ ခွင့်ပြုထားသော လုပ်ပိုင်ခွင့်နယ်မြေအတွင်း အခြားအဖွဲ့အစည်းများမှ ကျူးကျော်ဝင်ရောက်၍ သတ္တုဝယ်ယူမှုကို ဒေသအာဏာပိုင်များနှင့်ပူးပေါင်း၍ ကာကွယ် တားဆီးပေးရမည်။

(ဆ) ကန်ထရိုက်တာမှ အချိုးကျရရှိမည့် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုသန့်စင်များကို ပြည်ပသို့တင်ပို့ရောင်းချရာတွင် ကန်ထရိုက်တာမှအကူအညီတောင်းခံပါက ကူညီဆောင် ရွက်ပေးရမည်။

(ဇ) ထုတ်လုပ်မှုကာလအတွက် လစဉ်/ နှစ်စဉ်ထုတ်လုပ်မှုလျာထားချက်မပြည့်မီပါက မပြည့်မီရ သည့်အကြောင်းကို အကြောင်းပြချက်ဖြင့် ဝန်ကြီးဌာနသို့ တင်ပြရမည်။

(ဈ) ပုံသေမြေငှားရမ်းခ၊ ဓာတ်သတ္တုခွန်နှင့် သတလ(၂)ဝေစုအချိုးများကို သတ်မှတ်ရက်အတွင်း အပြည့်အဝပေးသွင်းရေး ကြပ်မတ်ဆောင်ရွက်ရမည်။

## အပိုင်း ( ၁၁ )

## ဓာတ်သတ္တုခွန်နှင့် ပုံသေမြေငှားရမ်းခ

၁၁-၁။ လုပ်ငန်းသဘောတူစာချုပ်အရ လုပ်ကိုင်၍ထွက်ရှိလာမည့် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တု တန်ချိန် စုစုပေါင်း၏(၄)ရာခိုင်နှုန်းကို သတ္တုအနေဖြင့်ဖြစ်စေ၊ အပိုင်း (၁၂-၂) ပါ တန်ဖိုးသတ်မှတ်ချက်အရ ငွေတန်ဘိုး ဖြင့်ဖြစ်စေကန်ထရိုက်တာမှ ဓာတ်သတ္တုခွန်အဖြစ် သတ္တုတွင်းဦးစီးဌာနသို့ ပေးဆောင်ရမည်။

၁၁-၂။ ကန်ထရိုက်တာသည် ပုံသေမြေငှားရမ်းခ (Dead Rent)ကို မြန်မာ့သတ္တုတွင်းဥပဒေ၊ မြန်မာ့ သတ္တုတွင်းနည်းဥပဒေများပါပြဋ္ဌာန်းချက်များနှင့်သတ္တုတွင်းဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏(၂၉.၈.၂၀၁၁)ရက်စွဲပါ စာအမှတ်၊ ၁ ခွဲ(၁)၁၁ (၄၄၈၄)တို့အရ အောက်ပါနှုန်းထားများအတိုင်း သတ္တုတွင်းဦးစီးဌာနသို့ ပေးဆောင် ရမည် -

(က) ထူထောင်မှုကာလ ပထမနှစ်တွင် တစ်စတုရန်းကီလိုမီတာအတွက် (၁၈၀၀၀၀၀)ကျပ်။

(ခ) ထုတ်လုပ်မှုကာလ ဒုတိယတစ်နှစ်လျှင် တစ်စတုရန်းကီလိုမီတာအတွက်(၃၀၀၀၀၀၀)ကျပ်။

## အပိုင်း (၁၂)

## ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားခြင်း

၁၂-၁။ တူးဖော်ထုတ်လုပ်ရာမှ ထွက်ရှိလာသော ခဲမဖြူ၊ အဖြိုက်နက်၊ ရောရာသတ္တုစုစုပေါင်း၏ (၄%)ကို အထက် အပိုဒ်၁၁-၁နှင့်အညီ နိုင်ငံတော်အတွက် ဓာတ်သတ္တုခွန်အဖြစ်ပေးဆောင်ပြီး ကျန်ခဲမဖြူ၊ အဖြိုက်နက်၊ ရောရာသတ္တုအား အင်တာနက်တွင်ဖော်ပြထားသည့်ဈေးနှုန်းကိုအခြေပြုပြီး သတ္တုတွင်းဝန်ကြီး ဌာနမှ အတည်ပြုထားသောဈေးနှုန်းဖြင့် အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် ကန်ထရိုက်တာတို့မှ အောက်ပါ အတိုင်း အချိုးကျ ခွဲဝေယူရမည်-

| | | |
|---|---|---|
| ခဲမဖြူအဖြိုက်နက်ရောရာသတ္တုစုစုပေါင်း | - ဓာတ်သတ္တုခွန် | = ကျန်ခဲမဖြူအဖြိုက်နက်ရောရာသတ္တု |
| ထုတ်လုပ်မှုမက်တန် x ၁၀၀% | - မက်တန် x ၄% = | မက်တန် x ၉၆% |

မက်တန် x ကျန် ၉၆% = သတလ(၂) ၃၀% x မက်တန် ႏ ကန်ထရိုက်တာ ၇၀% x မက်တန်

၁၂-၂။ ထုတ်လုပ်မှုအပေါ်ခွဲဝေခံစားမှုအဖြစ်အမှတ်(၂)သတ္တုတွင်းလုပ်ငန်းသည် ခဲမဖြူအဖြိုက်နက်ရောရာ သတ္တုကိုသော်လည်းကောင်း၊ အပိုဒ် ၁၃-၁တွင် ဖော်ပြထားသည့် သတ္တုတွင်းဝန်ကြီးဌာနမှ အတည်ပြု ထားသော ဈေးနှုန်းဖြင့်ရရှိသည့်ငွေကိုသော်လည်းကောင်း ရယူနိုင်သည်။

## အပိုင်း(၁၃)

## ထုတ်ကုန်ပစ္စည်းတန်ဖိုး သတ်မှတ်ခြင်း

၁၃-၁။ ခဲမဖြူအဖြိုက်နက်ရောရာသတ္တုများကို ပြည်ပသို့ရောင်းချရာ၌ အပိုဒ် ၁၂-၁ အရ Internet တွင် ဖော်ပြထားသည့် (London Metal Exchange (LME))ကိုအခြေပြုပြီး ပူးတွဲစီမံခန့်ခွဲရေးကော်မတီမှ တွက်ချက်၍ သတ္တုတွင်းဝန်ကြီးဌာနသို့တင်ပြရမည်။ သတ္တုတွင်းဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ၏ ဆုံးဖြတ်ချက်ဖြင့် တန်ဘိုးသတ်မှတ်ရမည်။

၁၃-၂။ လစဉ် ထုတ်လုပ်သော သတ္တုသန့်စင်များ၏တန်ဘိုးကို လက်ရှိဖြစ်ပေါ်နေသော ကမ္ဘာ့သတ္တုဈေးကွက်ပေါက်ဈေးအခြေအနေနှင့်အညီ အင်တာနက်တွင်ဖော်ပြသော လအလိုက်ပျမ်းမျှဈေးနှုန်းအပေါ် မူတည်၍တွက်ချက်ရမည်။

## အပိုင်း ( ၁၄ )

## သိုလှောင်ခြင်း၊ လွှဲပြောင်းခြင်းနှင့် သယ်ယူရောင်းချခြင်း

၁၄-၁။ ကန်ထရိုက်တာသည် ထုတ်လုပ်ရရှိသောသတ္တုသန့်စင်များကို သတ်မှတ်ထားသည့် လုံခြုံရေးစိတ်ချရသော နေရာ၊ သိုလှောင်ခန်း၊ အာမခံသေတ္တာတွင်သေချာစွာ ထည့်သွင်းထားရမည်။ ယင်းသို့ သိုလှောင်သိမ်းဆည်း ထားသောနေရာကို သော့ခလောက်နှစ်လုံးခတ်သည့် စနစ်အသုံးပြု၍ သတလ(၂)နှင့် ကန်ထရိုက်တာတို့က သော့တစ်ချောင်းစီ ထိန်းသိမ်းထားကြရမည်။ သိုလှောင်ခန်း အာမခံသေတ္တာ ဖွင့်/ပိတ်ခြင်းကို နှစ်ဖက် အတူတကွ ဆောင်ရွက်ရမည်။

၁၄-၂။ သတလ(၂)မှ အချိုးကျရရှိမည့် သတ္တုများကို သတလ(၂)မှ သတ်မှတ်ထားသော နေရာတွင် ကန်ထရိုက်တာမှ လွှဲပြောင်းပေးရမည်။

၁၄-၃။ အပိုင်း ၁၂ အပိုဒ် ၁၂-၁ အရ ကန်ထရိုက်တာမှ ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုသန့်စင်များအား သယ်ယူခြင်းကို ဝန်ကြီးဌာန လုပ်ထုံးများနှင့်အညီ လွတ်လပ်စွာ ဆောင်ရွက်နိုင်သည်။ သတ္တုသန့်စင်များအား ဝန်ကြီးဌာန၏လုပ်ထုံးများနှင့် အညီ ပြည်ပသို့ရောင်းချနိုင်သည်။

၁၄-၄။ သတလ(၂)မှအချိုးကျရရှိသော ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုများ အားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ကိုသော်လည်းကောင်း၊ အထက်အပိုင်း ၁၃ ပါ တန်ဖိုးသတ်မှတ်ချက် အတိုင်း ကန်ထရိုက်တာသို့ ရောင်းချနိုင်သည်။ ထိုသို့ရောင်းချသည့်အခါ ကန်ထရိုက်တာမှ ဝယ်ယူရန် သဘောတူပါသည်။

၁၄-၅။ ခဲမဖြူအဖြိုက်နက်နှင့်ရောရာသတ္တုသန့်စင်များကို နိုင်ငံခြားသို့ တင်ပို့ရောင်းချသွားရန် သိုလှောင်ထားရှိရေးအတွက် ကန်ထရိုက်တာမှ အကူအညီတောင်းခံပါက သတလ(၂)မှစီစဉ်ပေးရမည်။ ကျသင့်သည့် သိုလှောင်ရုံငှားရမ်းခကို ကန်ထရိုက်တာမှပေးချေရမည်။

## အပိုင်း ( ၁၅ )
## အခွန်အကောက်များ

၁၅-၁။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရမှ သတ်မှတ်ပြဋ္ဌာန်းထားသော အခွန်အကောက်များကို တည်ဆဲ ဥပဒေ၊ နည်းဥပဒေ၊ အမိန့်ညွှန်ကြားချက်များနှင့်အညီ ကန်ထရိုက်တာမှ ပေးဆောင်ရမည်။

၁၅-၂။ သတလ(၂)သည် ကန်ထရိုက်တာမှပေးဆောင်ရန်ရှိသည့် ဝင်ငွေခွန်နှင့် အခြားအခွန်အကောက်များကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပါအတိုင်း သက်သာခွင့်ရရှိရေးကို ကူညီဆောင်ရွက်ပေးရမည်။.

၁၅-၃။ ကန်ထရိုက်တာ၏ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ ပြည်ပတွင်ပေးရန်ရှိသောအခွန်များကို ကန်ထရိုက်တာမှပေးဆောင်ရမည်။

၁၅-၄။ ကန်ထရိုက်တာသည် တည်ဆဲဥပဒေများအရ ကန်ထရိုက်တာ၏ဝန်ထမ်းများမှ ပေးဆောင်ရမည့် ဝင်ငွေခွန်အပါအဝင် အခြားအခွန်အခများကို တာဝန်ယူဆောင်ရွက်ပေးရမည်။

## အပိုင်း ( ၁၆ )
## အာမခံထားရှိခြင်း

၁၆။ ကန်ထရိုက်တာသည် မြန်မာ့အာမခံဥပဒေအရ လိုအပ်သော အာမခံများထားရှိရမည်။

## အပိုင်း ( ၁၇ )
## အဆိုပြုငွေ

၁၇။ ကန်ထရိုက်တာသည် လုပ်ငန်းသဘောတူစာချုပ်လက်မှတ်ရေးထိုးသည့်နေ့ရက်တွင် သတလ(၂)သို့ လုပ်ကွက် အဆိုပြုငွေ အဖြစ် မြန်မာငွေ (၃၀,၀၀,၀၀၀၀/-) (ကျပ်သိန်းသုံးရာတိတိ)ကို ပေးသွင်းရမည်။

## အပိုင်း ( ၁၈ )
## ငွေပေးချေခြင်း

၁၈။ ကန်ထရိုက်တာသည် လုပ်ငန်းသဘောတူစာချုပ်အရ သတလ(၂)သို့ ပေးရန်ရှိသောငွေများကို သတလ(၂)မှသတ်မှတ် ပေးထားသော မြန်မာနိုင်ငံရှိဘဏ်တွင် ပေးသွင်းရမည်။ ကန်ထရိုက်တာသည် လုပ်ငန်းသဘောတူစာချုပ်အရ ပေးရန်ရှိသောငွေများကို ပေးချေရန်ကျရောက်သည့်နေ့မှ ရက်ပေါင်း(၃၀) အတွင်းပေးချေရမည်။ ပေးချေရန်သတ်မှတ်ထားသည့်ရက်အတွင်း ပေးချေရမည့်ငွေကို ကန်ထရိုက်တာမှ ပေးချေခဲ့ခြင်းမရှိပါက မြန်မာ့သတ္တုတွင်းနည်းဥပဒေ အပိုဒ် ၈၀(က)နှင့်အညီ ခွင့်ပြုမိန့်ကို ဆိုင်းငံ့ထားစေခြင်း သို့မဟုတ် ပယ်ဖျက်ခြင်းပြုနိုင်သည်။

## အပိုင်း ( ၁၉ )
## အငြင်းပွားမှုဖြေရှင်းခြင်း

၁၉။ လုပ်ငန်းသဘောတူစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက် ပြေလည်စွာညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်တစ်ဦးစီ ခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက ဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံလူကြီးနှစ်ဦးက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ အဆုံးအဖြတ်ကိုခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိ လူကြီး၏ ဆုံးဖြတ်ချက်သည် အပြီးဖြစ်စေရမည့်အပြင် နှစ်ဖက်အမှုသည်များအပေါ်၌လည်း အတည် ဖြစ်စေရမည်။ အငြင်းပွားမှုဖြေရှင်းခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ခုနှစ်၊ မြန်မာနိုင်ငံအနုညာတစီရင်ဆုံးဖြတ်ခြင်း အက်ဥပဒေ(မြန်မာနိုင်ငံအက်ဥပဒေအမှတ်၄/၁၉၄၄)နှင့် နောက်ပိုင်းထုတ်ပြန် သောတည်ဆဲပြင်ဆင်ချက်များနှင့်အညီဖြစ်စေရမည်။ အငြင်းပွားမှုဖြေရှင်းခြင်းဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စု မြန်မာနိုင်ငံတော် နေပြည်တော် ဖြစ်စေရမည်။အမှုအတွက်ကုန်ကျစရိတ်များကို အမှုရှုံးသူက ကျခံရမည်။

## အပိုင်း ( ၂၀ )
## စီမံခန့်ခွဲခြင်း

၂၀-၁။ **စီမံခန့်ခွဲရေးကော်မတီ**

(က) သတလ(၂)နှင့်ကန်ထရိုက်တာတို့ ကိုယ်စားလှယ်များပါဝင်သော စီမံခန့်ခွဲရေးကော်မတီ တစ်ခုဖွဲ့စည်း၍ ခဲမဖြူ၊ အဖြိုက်နက်နှင့်ရောရာသတ္တုတူးဖော်ထုတ်လုပ်မှုနှင့် ပတ်သက်သော လုပ်ငန်းစဥ်များ၊ ဘဏ္ဍာရေးကိစ္စများ၊ စီမံခန့်ခွဲမှုကိစ္စများ၊ နည်းပညာ ဆိုင်ရာကိစ္စရပ်များ၊ ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တု ရောင်းချမှုကိစ္စများအပါအဝင် လုပ်ငန်းသဘောတူ စာချုပ်ပါ လုပ်ငန်းအရပ်ရပ်ကို ဝန်ကြီးဌာနမှ ချမှတ်ပေးသည့် လုပ်ငန်းစဥ်အတိုင်း ညှိနှိုင်းဆောင်ရွက်ရမည်။

(ခ) ဤကော်မတီတွင် အဖွဲ့ဝင်(၅)ဦးပါဝင်ပြီး သတလ(၂)မှ အဖွဲ့ဝင်(၃)ဦးနှင့်ကုမ္ပဏီမှ အဖွဲ့ဝင် (၂)ဦးပါဝင်စေလျက် သတလ(၂)၏ ဦးဆောင်ညွှန်ကြားရေးမှူးသည် ဥက္ကဋ္ဌ ဖြစ်စေရမည်။ ဥက္ကဋ္ဌမှ ကော်မတီအတွင်းရေးမှူးတစ်ဦးကို ခန့်ထားရမည်။ လိုအပ်ပါက နှစ်ဦးနှစ်ဖက် သဘောတူညီမှုဖြင့် အဖွဲ့ဝင်အင်အားကို တိုးချဲ့ဖွဲ့စည်းနိုင်သည်။

(ဂ) ကော်မတီသည် နေပြည်တော် (သို့မဟုတ်) နှစ်ဖက်သဘောတူညီချက်ရရှိထားသော အခြား သင့်လျော်သည့်နေရာတွင် (၃)လတစ်ကြိမ် တွေ့ဆုံညှိနှိုင်းဆွေးနွေးရမည်။ လိုအပ်ပါက ဥက္ကဋ္ဌသည် အချိန်မရွေး ဤကော်မတီ၏အစည်းအဝေးကို ခေါ်ယူကျင်းပနိုင်သည်။

(ဃ) ကော်မတီဝင်များနှင့် အတွင်းရေးမှူးအတွက် အခကြေးငွေများ (သို့မဟုတ်) အခြားစရိတ် များကို စီမံခန့်ခွဲရေးကော်မတီမှ သတ်မှတ်အဆိုပြု၍ နှစ်ဖက်အတည်ပြုပြီး ကန်ထရိုက်တာ မှ ပေးချေရမည်။

(င) စီမံခန့်ခွဲရေးကော်မတီမှဆုံးဖြတ်ချက်များအတိုင်း ဝန်ကြီးဌာနမှ အတည်ပြုချက်ရယူရမည်။

၂၀-၂။ **လုပ်ငန်းစီမံခန့်ခွဲခြင်း**

(က) ကန်ထရိုက်တာသည် အထွေထွေမန်နေဂျာတစ်ဦးကို နေ့စဉ်လုပ်ငန်းရပ်များကြီးကြပ်ကွပ်ကဲ ဆောင်ရွက်နိုင်ရန် ခန့်ထားရမည်။ အထွေထွေမန်နေဂျာသည် စီမံခန့်ခွဲရေးကော်မတီမှ သတ်မှတ်ပေးထားသော စည်းမျဉ်းဘောင်အတွင်းမှ လုပ်ငန်းအစီအစဉ်များကို အပြည့်အဝ တာဝန်ယူ၍ ကြီးကြပ်ကွပ်ကဲဆောင်ရွက်ရမည်။

(ခ) ကန်ထရိုက်တာသည် အောက်ပါတာဝန်နှင့်လုပ်ပိုင်ခွင့်များကို အထွေထွေမန်နေဂျာအား ကြီးကြပ်လမ်းညွှန်ပေး၍ လုပ်ကိုင်ဆောင်ရွက်စေရမည် -

(၁) နှစ်စဉ်ငွေကြေး၊ အသုံးစရိတ်၊ ခန့်မှန်းခြေများ ပြုစုရေးဆွဲခြင်းနှင့် လုပ်ငန်းစဉ်များ အရ ပြန်လည်ပြုပြင်ထားသည့် အသုံးစရိတ်ခန့်မှန်းခြေများ ပြုစုရေးဆွဲခြင်း၊

(၂) လုပ်ငန်းနှင့်သက်ဆိုင်သော သုံးလပတ်အစီရင်ခံစာနှင့် နှစ်ချုပ်အစီရင်ခံစာများ ရေးဆွဲခြင်း၊

၂၀-၃။ ကန်ထရိုက်တာသည် လုပ်ငန်းအတွက်လိုအပ်သော ဝန်ထမ်းနှင့်လုပ်သားများကို သတလ(၂)၏ သဘောတူညီချက်ဖြင့် တည်ဆဲစည်းမျဉ်းဥပဒေများနှင့်အညီ ခန့်ထားရမည်။

၂၀-၄။ "ကန်ထရိုက်တာ" သည် လုပ်သားများ လုပ်ငန်းခွင်ဘေးအန္တရာယ်ကင်းရှင်းရေး၊ နေထိုင်စားသောက် ရေး၊ ဆေးဝါးကုသရေး စသည့် လူမှုရေးကိစ္စများနှင့် သက်သာချောင်ချိရေးကိစ္စရပ်များကို စီစဉ်ပေးရမည်။

၂၀-၅။ အလုပ်သမားဆိုင်ရာ အက်ဥပဒေများအရ အလုပ်သမားများ၏ရပိုင်ခွင့်များကို "ကန်ထရိုက်တာ" မှ တာဝန်ယူရမည်။

## အပိုင်း ( ၂၁ )

## လုပ်ငန်းများ ကြီးကြပ်ဆောင်ရွက်ခြင်း

၂၁-၁။ ကန်ထရိုက်တာသည် လုပ်ငန်းကာလအတွင်း သတလ(၂)မှ ကိုယ်စားလှယ်နှစ်ဦးထားရှိရန် သဘောတူသည်။ ယင်းကိုယ်စားလှယ်များ နေထိုင်သွားလာရေး၊ စားသောက်ရေးနှင့် စီမံခန့်ခွဲရေးအတွက် တိုင်းအထွေထွေမန်နေဂျာမှ သတ်မှတ်ပေးထားသော လစဉ်ထောက်ပံ့ကြေးငွေများကို ကန်ထရိုက်တာမှ စီမံဆောင်ရွက်ပေးရမည်။

၂၁-၂။ သတလ(၂)ကိုယ်စားလှယ်များအား လုပ်ငန်းသဘောတူစာချုပ်ပါ လုပ်ငန်းများနှင့်စပ်လျဉ်း၍ သက်ဆိုင်သော ရုံးလုပ်ငန်းများ ဆောင်ရွက်နိုင်စေရန် ကန်ထရိုက်တာမှပံ့ပိုးရမည်။

၂၁-၃။ သတလ(၂)နှင့်ဝန်ကြီးဌာနမှ တာဝန်ပေးအပ်ထားသော ပုဂ္ဂိုလ်များသည် လိုအပ်ပါက သင့်လျော် သည့်အချိန်တွင် လုပ်ငန်းသဘောတူစာချုပ်အရ လုပ်ပိုင်ခွင့်ရှိသော ဧရိယာအတွင်း လုပ်ငန်းများ ဝင်ရောက် စစ်ဆေးခွင့်ရှိသည်။ ကန်ထရိုက်တာသည် အထက်ဖော်ပြပါပုဂ္ဂိုလ်များမှ ကန်ထရိုက်တာ၏ လုပ်ငန်းများနှင့် ပတ်သက်သော အတတ်ပညာပိုင်းဆိုင်ရာနှင့် ထုတ်လုပ်မှုလုပ်ငန်းဆိုင်ရာ အချက်အလက်များ တောင်းခံလာ ပါကဆောလျင်စွာ ကူညီပံ့ပိုးပေးရမည်။ ကိုယ်စားလှယ်များသည် ပုံမှန်လုပ်ငန်းဆောင်ရွက်နေမှုများကို ဝင်ရောက်စွက်ဖက်မှုမျိုး မဖြစ်စေရ။

## အပိုင်း ( ၂၂ )
## အာမခံစပေါ်ငွေ

၂၂-၁။ ကန်ထရိုက်တာသည် လုပ်ငန်းသဘောတူစာချုပ်လက်မှတ် ရေးထိုးပြီးနောက် ရက်ပေါင်း(၃၀) အတွင်း အာမခံစပေါ်ငွေအဖြစ် ကျပ် ၁၀၀၀၀၀၀၀၀/ (ကျပ်သိန်းတစ်ရာတိတိ)ကို အမှတ်(၂)သတ္တုတွင်း လုပ်ငန်းအမည်ဖြင့် နိုင်ငံတော်အစိုးရပိုင် မြန်မာ့စီးပွားရေးဘဏ် တစ်ခုခုတွင်ထားရှိရမည်။ အာမခံစပေါ်ငွေကို လုပ်ငန်းသဘောတူစာချုပ် သက်တမ်းတိုးမြှင့်သည့်ကာလအထိ (သို့မဟုတ်) ကန်ထရိုက်တာမှ လုပ်ငန်းသဘောတူစာချုပ်ပါ တာဝန်ဝတ္တရားများအားလုံး ဆောင်ရွက်ပြီးစီးသည့်အထိ လုပ်ငန်းသဘောတူစာချုပ် သက်တမ်းတစ်လျှောက် ထားရှိရမည်။

၂၂-၂။ လုပ်ငန်းသဘောတူစာချုပ်ပါ သဘောတူညီချက်များအတိုင်း ဆောင်ရွက်ရန် ကန်ထရိုက်တာမှ ပျက်ကွက်ခဲ့လျှင် အပိုင်း ၂၃ ပါအတိုင်း လုပ်ငန်းသဘောတူစာချုပ်ကိုရပ်စဲ၍ သတလ(၂)မှ ဘဏ်အာမခံငွေအားလုံးကို သိမ်းယူနိုင်သည်။ လုပ်ငန်းသဘောတူစာချုပ် သက်တမ်းကုန်ဆုံးလျှင်သော်လည်းကောင်း၊ ကန်ထရိုက်တာ၏အပြစ်ကြောင့်မဟုတ်ဘဲ တစ်စုံတစ်ရာသော အကြောင်းကြောင့် နှစ်ဖက်လုပ်ငန်းသဘောတူစာချုပ် ဖျက်သိမ်းလျှင်သော်လည်းကောင်း၊ သတလ(၂)သည် ကန်ထရိုက်တာမှ ပေးရန်ကျန်ရှိ သောကြွေးမြီများကိုနုတ်ယူ၍ ကျန်သောဘဏ်အာမခံငွေကိုကန်ထရိုက်တာသို့ ပြန်ပေးရမည်။

## အပိုင်း ( ၂၃ )
## စာချုပ်ရပ်စဲခြင်း

၂၃-၁။ လုပ်ငန်းသဘောတူစာချုပ်ကို အောက်ဖော်ပြပါ အချက်အလက်များအနက် တစ်ခုခုဖြစ်ပေါ်လာပါက မည်သည့်ဘက်ကမဆို ရက်ပေါင်း(၉၀)ကြိုတင်သတိပေးပြီး ဝန်ကြီးဌာန၏အတည်ပြုချက်ဖြင့် ဆောင်ရွက်နိုင်သည်-

(က) ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုတူးဖော်ထုတ်လုပ်မှုလုပ်ငန်းသည် စဉ်ဆက်မပြတ် အရှုံးပေါ်ပေါက်နေခြင်း၊

( ခ ) တစ်ဖက်ဖက်မှ လုပ်ငန်းသဘောတူစာချုပ်ပါ စည်းကမ်းချက်များအား ဖောက်ဖျက်ခြင်း၊

( ဂ ) မလွန်ဆန်နိုင်သော ဖြစ်ရပ်တစ်ခုခုသည် (၆)လထက် ကျော်လွန်၍ ဖြစ်ပွားနေခြင်း၊

(ဃ) လုပ်ငန်းသဘောတူစာချုပ်သက်တမ်းကုန်ဆုံးခြင်း၊

( င ) လုပ်ငန်းသဘောတူစာချုပ် လက်မှတ်ရေးထိုးပြီးသည့်နေ့မှ (၆)လအတွင်း လုပ်ငန်းများ စတင်ဆောင်ရွက်မှုမရှိခြင်း။

၂၃-၂။ လုပ်ငန်းသဘောတူစာချုပ်၌ တစ်စုံတစ်ရာ ပါဝင်မှုမရှိစေကာမူ နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး၊ စာဖြင့် ရေးသားထားသော သဘောတူညီချက်ရယူ၍ လုပ်ငန်းသဘောတူစာချုပ်ကို ရပ်စဲနိုင်သည်။ ထိုသို့ လုပ်ငန်းသဘောတူစာချုပ်ကို ရပ်စဲသည့်အခါတွင် သတ္တုတွင်းဝန်ကြီးဌာန၏ သဘောတူညီချက်ရရှိပြီးမှသာ အတည်ဖြစ်သည်။ ထို့နောက်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မှတ်တမ်းတင်နိုင်ရန်ဆောင်ရွက်ရမည်။

၂၃-၃။ လုပ်ငန်းသဘောတူစာချုပ်ကို ရပ်စဲခြင်းအားဖြင့် လုပ်ငန်းသဘောတူစာချုပ်မရပ်စဲမီ တာဝန်ရှိခဲ့သည့်ကိစ္စရပ်များမှအပ လုပ်ငန်းသဘောတူစာချုပ်ပါ ရှေ့ဆက်လက်ဆောင်ရွက်ရမည့် တာဝန်ဝတ္တရားများ၊ လုပ်ပိုင်ခွင့်များ၊ လုပ်ငန်းဆောင်ရွက်ရန် အချက်အလက်များအားလုံး လုံးဝပြီးပြတ်သည်ဟု မှတ်ယူရမည်။ သို့ရာတွင် ကန်ထရိုက်တာသည် ပေးရန်တာဝန်များအတွက် ဆက်လက်တာဝန်ရှိစေရမည်။

၂၃-၄။ ခာတ်သတ္တုထုတ်လုပ်ရန် ခွင့်ပြုမိန့်အား သတ်မှတ်ကာလအတွင်း သက်တမ်းတိုးလျှင်သော်လည်းကောင်း၊ လုပ်ကွက်အား ပြန်လည်အပ်နှံလျှင်သော်လည်းကောင်း၊ အခြားအကြောင်းတစ်ရပ်ရပ်ကြောင့် လုပ်ငန်းရပ်စဲ၍ သဘောတူစာချုပ်ဖျက်သိမ်းလျှင်သော်လည်းကောင်း သတလ(၂)မှတဆင့် သတ္တုတွင်းဝန်ကြီးဌာနသို့ ပြန်လည်အပ်နှံရမည်။

၂၃-၅။ အကယ်၍ သတလ(၂)မှ ခွင့်ပြုမိန့်ပြန်လည်အပ်နှံရန် အကြောင်းကြားသော်လည်း ထုတ်ပေးထားသည့် ခွင့်ပြုမိန့်အား ပြန်လည်အပ်နှံခြင်းမရှိပါက သက်ဆိုင်ရာကုမ္ပဏီအား သတ္တုတွင်းဝန်ကြီးဌာနနှင့် သက်ဆိုင်သော မည်သည့် လုပ်ငန်းကိုမှ လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုမည်မဟုတ်ပါ။

## အပိုင်း ( ၂၄ )
## လျှို့ဝှက်ထိန်းသိမ်းခြင်း

၂၄။ ကန်ထရိုက်တာသည် လုပ်ငန်းသဘောတူစာချုပ်ပါ အချက်အလက်များ၊ စာချုပ်ပါတာဝန်များ၊ လုပ်ငန်းအစီအစဉ်များနှင့် အခြားပတ်သက်ရာပတ်သက်ကြောင်း သတင်းအချက်အလက်များကို ဥပဒေအရ ခွင့်ပြုထားသည့်ကိစ္စမှအပ လျှို့ဝှက်အဆင့်တွင်ထားရမည်။

## အပိုင်း ( ၂၅ )
## မှတ်တမ်းများ၊ ငွေစာရင်းများနှင့် စာရင်းစစ်ဆေးခြင်း

၂၅-၁။ ကန်ထရိုက်တာသည် လုပ်ငန်းသဘောတူစာချုပ်ပါလုပ်ငန်းနှင့် ပတ်သက်သည့်မှတ်တမ်းများ၊ ငွေစာရင်းများ စသည်တို့ကို မြန်မာနိုင်ငံစာရင်းကောင်စီမှ ထုတ်ပြန်ထားသည့် Myanmar Accounting Standard များအတိုင်း စာရင်းများ ထိန်းသိမ်းထားရှိရန် တာဝန်ရှိသည်။ စာရင်းဇယားများကို မြန်မာဘာသာဖြင့် ထားရှိရမည်။ ကန်ထရိုက်တာ၏ နှစ်ချုပ်စာရင်းများကို ဘဏ္ဍာရေးနှစ်ကုန်ဆုံးပြီး (၃)လအတွင်း အမှတ်(၂) သတ္တုတွင်းလုပ်ငန်းသို့ တင်ပြရမည်။

၂၅-၂။ လုပ်ငန်းသဘောတူစာချုပ်အရ သတလ(၂)သည် ထုတ်လုပ်မှု၊ သိုလှောင်မှုမှတ်တမ်းများနှင့်ပတ်သက်၍ စစ်ဆေးခွင့်ရှိသည်။

၂၅-၃။ သတလ(၂)သည် လိုအပ်ပါက ပြင်ပမှ စာရင်းစစ်တစ်ဦးကို စစ်ဆေးရန်ခန့်ထားနိုင်သည်။ ယင်း စစ်ဆေးရမည့် ကာလသည် သက်ဆိုင်ရာ ဘဏ္ဍာရေးနှစ် တစ်နှစ်သာဖြစ်သည်။

## အပိုင်း ( ၂၆ )
## မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

၂၆-၁။ မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ သဘာဝဘေးအန္တရာယ် ကျရောက်မှု၊ ရေကြောင်းဘေးအန္တရာယ်ကျရောက်မှု၊ သပိတ်မှောက်ခြင်း၊ အလုပ်သမားများ၏ နှောင့်ယှက်မှုများ၊ စစ်ဖြစ်ပွားခြင်း၊ ပိတ်ဆို့မှု၊ ဆူပူမှု၊ ကူးစက်တတ်သောရောဂါဖြစ်ပွားမှု၊ မြေပြိုခြင်း၊ လျှော်လှုပ်ခြင်း၊ မုန်တိုင်းကျခြင်း၊ မိုးကြိုးပစ်ခြင်း၊ ရေကြီးခြင်း၊ ရေလွှမ်းမိုးခြင်း၊ ပေါက်ကွဲခြင်းများနှင့် အခြားအလားတူ ထိန်းချုပ်၍ မရနိုင်သောဖြစ်ရပ်များ (သို့မဟုတ်) မည်သည့်ဘက်ကမျှ ကြိုးစားအားထုတ်မှုဖြင့် တားဆီး မရနိုင်သော ဖြစ်ရပ်များပါဝင်သည်။

၂၆-၂။ လုပ်ငန်းသဘောတူစာချုပ်အရ ဆောင်ရွက်ရမည့်တာဝန်များပျက်ကွက်ခြင်း(သို့မဟုတ်) နှောင့်နှေးကြန့်ကြာမှုများဖြစ်ပေါ်လာလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်နှင့်အညီဖြစ်ပါက နှစ်ဦးနှစ်ဖက် ကင်းလွတ်ခွင့်

ပြုရမည်။ ယင်းမလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် တစ်ဖက်မှ မိမိလိုက်နာဆောင်ရွက်ရမည့် တာဝန်တစ်စိတ်တစ်ဒေသကိုဖြစ်စေ၊ အားလုံးကိုဖြစ်စေ ခေတ္တဆိုင်းငံ့ရမည့်အခြေအနေပေါ်ပေါက်လာလျှင် ထိုသို့ ဆိုင်းငံ့ထားရမည့်ဖြစ်ရပ်နှင့် ဖြစ်တန်ရာသည့်ကာလတို့ကိုဖော်ပြလျက် ထိုဖြစ်ရပ်ပေါ်ပေါက်သည့်နေ့မှစ၍ (၁၄)ရက် (တစ်ဆယ့်လေးရက်)အတွင်း နစ်နာသူကအခြားတစ်ဖက်သို့ စာဖြင့်အကြောင်းကြားရမည်။ ဤသို့ အကြောင်းကြားခြင်းကို အခြားတစ်ဖက်မှ အတည်ပြုလက်ခံမှသာလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်ဖြစ်မြောက်ပြီး ထိုနစ်နာသောအချိန်ကာလအတွက် တာဝန်ဝတ္တရားများရပ်ဆိုင်းရမည်။ ထိုမလွန်ဆန်နိုင်သော အခြေအနေကိုအမြန်ဆုံးကျော်လွှားနိုင်အောင် ဆောင်ရွက်ရမည်။

၂၆-၃။ အပိုဒ် ၂၆-၁ ပါအတိုင်း မလွန်ဆန်နိုင်သောဖြစ်ရပ်ပေါ်ပေါက်မှုကို တစ်ဖက်မှအသိပေးပြီး နှစ်ဦးနှစ်ဖက်အတည်ပြုလက်ခံထားသောဖြစ်ရပ်မှ ပေါ်ပေါက်လာသည့် ကြန့်ကြာမှု၊ ဆုံးရှုံးမှုများအတွက် မည်သည့်ဘက်တွင်မှ တာဝန်မရှိစေရ။

၂၆-၄။ အထက်ပါ မလွန်ဆန်နိုင်သော ဖြစ်ရပ်များအတွက် သက်ဆိုင်ရာ ပြည်နယ်/တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ထောက်ခံချက်များပါရှိမှသာလျှင် အတည်ဖြစ်သည်။

## အပိုင်း ( ၂၇ )
## အခြားဓာတ်သတ္တုပစ္စည်းများတွေ့ရှိခြင်း

၂၇-၁။ လုပ်ငန်းသဘောတူစာချုပ်အရ ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုတူးဖော်ထုတ်လုပ်နေစဉ် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုမှအပ အခြားသော ဓာတ်သတ္တုပစ္စည်းများ၊ အဖိုးတန်သတ္တုများဖြစ်သည့် ရွှေ၊ စိန်၊ ကျောက်များ၊ ကျောက်မျက်ရတနာများ၊ ရှေးဟောင်းပစ္စည်းများတစ်ခုခုကို မိမိ လုပ်ကွက်အတွင်း၌ တူးဖော်တွေ့ရှိပါက ထိုသို့တွေ့ရှိကြောင်း ကန်ထရိုက်တာက သတလ(၂)သို့ ချက်ချင်း အကြောင်းကြားပြီး၊ နိုင်ငံတော်သို့ အပ်နှံရမည်။ တူးဖော်တွေ့ရှိသော ခဲမဖြူ၊အဖြိုက်နက်နှင့် ရောရာသတ္တုမှအပ အခြားဓာတ်သတ္တုပစ္စည်းများ၊ အဖိုးတန်သတ္တုများဖြစ်သည့် ရွှေ၊ စိန်၊ ကျောက်များ၊ ကျောက်မျက်ရတနာများ၊ ရှေးဟောင်းပစ္စည်းများသည် နိုင်ငံတော်ပိုင်ဖြစ်ပြီး ကန်ထရိုက်တာနှင့် လုံးဝမသက်ဆိုင်စေရ။

၂၇-၂။ အကယ်၍ ကန်ထရိုက်တာသည် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုများတူးဖော်ရန် လုပ်ပိုင်ခွင့်ရရှိသောဧရိယာအတွင်း လုပ်ငန်းဆောင်ရွက်နေစဉ် ကာလအတွင်း ယူရေနီယံကဲ့သို့ (Radio Active Mineral)သတ္တုများ၊ နိုင်ငံတော်အစိုးရကသာ လုပ်ကိုင်ခွင့်ရှိသော မဟာဗျူဟာမြောက် ဓာတ်သတ္တုများတွေ့ရှိပါက နိုင်ငံတော်ကသာ လုပ်ကိုင်ခွင့်ရှိသည်။ ယင်းအပြင်အခြားဓာတ်သတ္တုကို တွေ့ရှိရ၍ ယင်းဓာတ်သတ္တုကိုလည်း တူးဖော်လုပ်ကိုင်လိုပါက ဆက်လက်လုပ်ဆောင်လိုသည်များကို ကန်ထရိုက်တာနှင့် သတလ(၂)တို့ညှိနှိုင်း၍ ဝန်ကြီးဌာန၏ခွင့်ပြုချက်နှင့် အတည်ပြုချက်ဖြင့်သာ ဆက်လက်ဆောင်ရွက်ရမည်။

## အပိုင်း ( ၂၈ )
## လွှဲပြောင်း၍မရနိုင်သော အခွင့်အရေး

၂၈။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ၏ လွှဲပြောင်း၍မရနိုင်သော နိုင်ငံတော်၏ မြေပေါ်၊ မြေအောက်၊ ရေပေါ်၊ ရေအောက်သယံဇာတများကို တစ်ဦးတည်းပိုင်ဆိုင်ခွင့်နှင့် မူလဘူတအခွင့်အရေး ကျင့်သုံးခြင်းကို

လုပ်ငန်းသဘောတူစာချုပ်ဝင်များ၏ အငြင်းပွားမှုဖြေရှင်းရန် တင်ပြသည့် သဘောတူညီချက်အပါအဝင် လုပ်ငန်းသဘောတူစာချုပ်ပါ မည်သည့်ပြဋ္ဌာန်းချက်ကမျှ တားမြစ်ခြင်း (သို့မဟုတ်) ကန့်သတ်ခြင်း မပြုနိုင်။

## အပိုင်း ( ၂၉ )

## သဘာဝပတ်ဝန်းကျင်ထိခိုက်မှု၊ လူမှုပတ်ဝန်းကျင်ထိခိုက်မှုအပေါ် အကဲဖြတ်ဆန်းစစ်ချက်နှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး၊ လူမှုပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းစီမံချက်

**သဘာဝပတ်ဝန်းကျင်ထိခိုက်မှု အကဲဖြတ်ဆန်းစစ်ချက်နှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက် ကန်ထရိုက်တာသည်-**

၂၉-၁။ သဘာဝပတ်ဝန်းကျင်၊ လူမှုပတ်ဝန်းကျင်ထိခိုက်မှု လေ့လာဆန်းစစ်ချက်အစီရင်ခံစာများကို ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ လက်ခံကျင့်သုံးသည့် စံချိန်စံညွှန်းများနှင့်အညီ သဘောတူစာချုပ်မချုပ်ဆိုမီ ပြီးပြည့်စုံအောင်ရေးဆွဲပြုစုရမည်။

၂၉-၂။ စီမံကိန်းဧရိယာနှင့် ပတ်ဝန်းကျင်ဧရိယာများ၏ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအတွက် တာဝန်ယူရမည်။ ဓာတ်သတ္တုတူးဖော်ထုတ်လုပ်သည့်လုပ်ငန်းကြောင့် ဖြစ်ပေါ်လာသည့်မြေသုံးစွဲမှုပြဿနာ၊ လူမှုစီးပွားရေးဆိုင်ရာပြဿနာ၊ ဂေဟဗေဒဆိုင်ရာပြဿနာ၊ လေထုညစ်ညမ်းမှုနှင့် အသံဆူညံမှု၊ တုန်ခါမှု၊ ရှခင်းရှုကွက်ကိုထိခိုက်ပျက်ယွင်းစေသည့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှုနှင့် ဆက်စပ်ပတ်သက်သည့်အကြောင်းချင်းရာကို ကန်ထရိုက်တာမှ စီမံထိန်းသိမ်းဆောင်ရွက်ရမည်။

၂၉-၃။ ပတ်ဝန်းကျင်ထိခိုက်မှုလေ့လာဆန်းစစ်ချက်သည် စွန့်စားရမှုကင်းသည့် “မူ”ကိုအခြေခံ၍ စီမံကိန်းသက်တမ်းပြည့်မီအောင်ဖြစ်စေရန်အတွက် ထိရောက်မှုရှိသောပုံစံဖြင့်ဆောင်ရွက်ပေးရမည်။ သဘာဝပတ်ဝန်းကျင်လေ့လာဆန်းစစ်ချက်လုပ်ငန်းစဥ်များကိုကျင့်သုံး၍ စာချုပ်ပါထုတ်လုပ်မှုလုပ်ငန်းမစတင်မီ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာလုပ်ငန်းစီမံချက်ကို ရှင်းလင်းတိကျစွာရေးဆွဲသတ်မှတ်ထားရှိရမည်။

၂၉-၄။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက်(EMP)တွင် အောက်ပါလုပ်ငန်းစဥ်များပါဝင်မည်-

(က) အမှုန်အမွှားထိန်းသိမ်းရေးလုပ်ငန်းစဥ်
(ခ) အသံဆူညံမှုထိန်းသိမ်းရေးလုပ်ငန်းစဥ်
(ဂ) လုပ်ငန်းသုံးရေနှင့် စွန့်ပစ်ရေထိန်းသိမ်းရေးလုပ်ငန်းစဥ်
(ဃ) တိုက်စားမှုနှင့် အနည်ထိုင်စုပုံမှုများထိန်းသိမ်းရေးလုပ်ငန်းစဥ်
(င) စွန့်ပစ်ကျောက်များထိန်းသိမ်းရေးလုပ်ငန်းစဥ်
(စ) ဘေးဖြစ်စေတတ်သောပစ္စည်းများထိန်းသိမ်းရေးလုပ်ငန်းစဥ်
(ဆ) အထွေထွေစွန့်ပစ်ပစ္စည်းများထိန်းသိမ်းရေးလုပ်ငန်းစဥ်
(ဇ) လုပ်ကွက်မြေနေရာအားပြန်လည်ထူထောင်ရေးလုပ်ငန်းစဥ်
(ဈ) သတ္တုတွင်းအားပြန်လည်အပ်နှံရေးနှင့် သတ္တုတွင်းပိတ်သိမ်းရေးလုပ်ငန်းစဥ်

၂၉-၅။ လုပ်ကွက်မြေနေရာပြန်လည်ထူထောင်ရေး၊ သတ္တုတွင်းပြန်လည်အပ်နှံရေးနှင့် သတ္တုတွင်းပိတ်သိမ်းရေးလုပ်ငန်းစဉ်များသည့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက် အစိတ်အပိုင်းဖြစ်ပြီး၊ ၎င်းတွင် ပိတ်သိမ်းမှုလုပ်ငန်းအားလုံး၏ အသေးစိတ်နည်းစနစ်များပါဝင်သည်။ ကန်ထရိုက်တာအနေဖြင့် ဘဏ္ဍာရေးဆိုင်ရာစီမံခန့်ခွဲမှုများပါဝင်သော သတ္တုတွင်းပိတ်သိမ်းမှုဆိုင်ရာလုပ်ငန်းအစီအစဉ်အား ထုတ်လုပ်မှုကာလတစ်လျှောက်လုံးတွင် မြေယာပြန်လည်ဖော်ထုတ်ခြင်း၊ ပြုပြင်ခြင်းလုပ်ငန်းဆောင်ရွက်ရန် နှစ်စဉ်ထည့်ဝင်မည့် ရံပုံငွေအား ညှိနှိုင်းသတ်မှတ်၍ ကန်ထရိုက်တာမှ ထည့်ဝင်သွားရမည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းစဉ်၏ အစိတ်အပိုင်းဖြစ်သောလုပ်ကွက်မြေနေရာ ပြန်လည်ထူထောင်ခြင်း၊ သတ္တုတွင်းပြန်လည်အပ်နှံခြင်းနှင့် သတ္တုတွင်းပိတ်သိမ်းခြင်းလုပ်ငန်းစဉ်များ အစရှိသည်တို့ဆောင်ရွက်ရန်အတွက်သာ အဆိုပါရံပုံငွေကို သုံးစွဲသွားရန်ဖြစ်ပါသည်။

**လူမှုပတ်ဝန်းကျင်ထိခိုက်မှု အကဲဖြတ်ဆန်းစစ်ချက်(SIA)နှင့်**
**လူမှုပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းစီမံချက်**

၂၉-၆။ ကန်ထရိုက်တာသည် စီမံကိန်း၏စီးပွားဖြစ်ထုတ်လုပ်သည့်ကာလတစ်လျှောက်၌ ဒေသခံများနှင့် လူမှုပတ်ဝန်းကျင်ဖွံ့ဖြိုးတိုးတက်မှုများကို တာဝန်ယူရမည်ဖြစ်ပြီး၊ လူမှုပတ်ဝန်းကျင်ထိခိုက်မှုဆိုင်ရာလေ့လာဆန်းစစ်ချက်(SIA)ကိုလေ့လာ၍ လုပ်ငန်းစီမံချက်ကိုရေးဆွဲထားရှိရမည်။ ဒေသခံများနှင့် လူမှုပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက်များ၏ လုပ်ငန်းစဉ်များ၌ ထူထောင်မှု၊ တည်ဆောက်မှု၊ လုပ်ငန်းလည်ပတ်မှု၊ ပြုပြင်ထိန်းသိမ်းမှုနှင့် ပြန်လည်အပ်နှံမှု၊ ရပ်စဲမှုလုပ်ငန်းစဉ်များရေးဆွဲဖော်ပြရမည်ဖြစ်ပြီး၊ အဆိုပါလုပ်ငန်းအစီအစဉ်များ၏ ခန့်မှန်းကုန်ကျစရိတ်များ၊ ဝန်ထမ်းများခန့်ထားပေးခြင်း၊ သင်တန်းပေးလေ့ကျင့်ခြင်းနှင့် ထိခိုက်သက်ရောက်မှုများကိုလျှော့နည်းစေရေးအတွက် မရှိမဖြစ်လိုအပ်သော အထောက်အကူပြုသည့်ဝန်ဆောင်မှုလုပ်ငန်းများပါဝင်ရမည်။

၂၉-၇။ ဒေသခံလူ့အဖွဲ့အစည်းနှင့် လူမှုဖွံ့ဖြိုးတိုးတက်ရေးစီမံချက်များတွင် အောက်ဖော်ပြပါလုပ်ငန်းများ အကျုံးဝင်ပါရှိမည်ဖြစ်သည် -

(က) ပညာရေး၊ လေ့ကျင့်သင်ကြားရေးနှင့် အလုပ်ခန့်ထားရေးအစီအစဉ်

(ခ) ရွှေ့ပြောင်းနေရာချထားရန်လိုအပ်လျှင် ပြောင်းရွှေ့နေရာချထားမှု စီမံခန့်ခွဲမှုလုပ်ငန်းစဉ်နှင့် အကောင်အထည်ဖော်မည့်အစီအစဉ်

(ဂ) ကျန်းမာရေးစောင့်ရှောက်မှုအစီအစဉ်

(ဃ) လျှပ်စစ်မီးရရှိရေးအစီအစဉ်

(င) မြေယာရှုခင်းထိန်းသိမ်းရေးအစီအစဉ်

၂၉-၈။ ကန်ထရိုက်တာသည် စီးပွားရေးအဖွဲ့အစည်း၏ လူမှုရေးတာဝန်ယူမှု(CSR)လုပ်ငန်းစဉ်များ အကောင်အထည်ဖော်ဆောင်ရွက်ရန် ဒေသခံလူ့အဖွဲ့အစည်းနှင့် လူမှုပတ်ဝန်းကျင်ဖွံ့ဖြိုးတိုးတက်ရေး အစီအစဉ်အတွက် ငွေကြေးနှင့်ထောက်ပံ့ခြင်း၊ တည်ဆောက်ရေးဆိုင်ရာ အင်ဂျင်နီယာလုပ်ငန်းများ အခမဲ့ဆောင်ရွက်ပေးခြင်းနှင့် လူမှုရေးတာဝန်ယူမှု(CSR)လုပ်ငန်းစဉ်အတွက် သင့်လျော်သည့်အထောက်အပံ့ထည့်ဝင်ရန် သဘောတူညီကြပါသည်။

## အပိုင်း ( ၃၀ )
## အထွေထွေ

၃၀-၁။ ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်နှင့်သတ်မှတ်ချက်များ၊ တာဝန်နှင့် အခွင့်အရေးများ၊ မြေငှား ရမ်းခနှင့် အခြားအခွန်အခတို့နှင့် စပ်လျဉ်း၍ သဘောတူစာချုပ်အား (၃)နှစ်(၁)ကြိမ် ပြန်လည်စိစစ်သုံးသပ် (Review)ဆောင်ရွက်ရမည်။

၃၀-၂။ လုပ်ငန်းသဘောတူစာချုပ်သည်သာလျှင် နှစ်ဦးနှစ်ဖက်အတည်ပြုထားသော သဘောတူညီချက် ဖြစ်သည်။ ဤကိစ္စ နှင့်ပတ်သက်၍ ယခင်ကနှုတ်ဖြင့် သော်လည်းကောင်း၊ စာဖြင့်သော်လည်းကောင်း သဘောတူညီချက်ရှိခဲ့လျှင် ထိုသဘောတူညီချက်များသည် ဆက်လက်၍ အကျိုးသက်ရောက်မှုမရှိစေရ။

၃၀-၃။ ဓာတ်သတ္တုထုတ်လုပ်ရန် ခွင့်ပြုမိန့်အား သတ်မှတ်ကာလအတွင်း သက်တမ်းတိုးလျှင်သော် လည်းကောင်း၊ ခွင့်ပြုမိန့်/လုပ်ကွက်အား ပြန်လည်အပ်နှံလျှင်သော်လည်းကောင်း၊ သတလ(၂)မှတဆင့် ဝန်ကြီးဌာနသို့ ပြန်လည်အပ်နှံရမည်။

၃၀-၄။ အကယ်၍ ကုမ္ပဏီမှ ခွင့်ပြုမိန့်သက်တမ်းကုန်ဆုံး၍ ပြန်လည်အပ်နှံခြင်းမရှိပါက သက်ဆိုင် ရာကုမ္ပဏီအား နာမည်ပျက်စာရင်းသွင်းခြင်းခံရမည်။

၃၀-၅။ ခွင့်ပြုမိန့်ပျောက်ဆုံးပါက သတလ(၂)သို့ တစ်လအတွင်း ခွင့်ပြုမိန့်အသစ်ထုတ်ပေးရန် အမြန် လျှောက်ထားရမည်။ ထိုသို့လျှောက်ထားရာတွင် သက်ဆိုင်ရာမြို့နယ်အဆင့် ဒေသအာဏာပိုင်နှင့် မြို့နယ် အဆင့်မြန်မာနိုင်ငံရဲတပ်ဖွဲ့တို့၏ ထောက်ခံချက်များဖြင့် ပြည့်စုံစွာ တင်ပြရမည်။

၃၀-၆။ ခွင့်ပြုမိန့်ပျောက်ဆုံးကြောင်း ခိုင်လုံသည့် အထောက်အထားပြနိုင်ပါက ခွင့်ပြုမိန့်အသစ်အား သတ္တုတွင်းဝန်ကြီးဌာနသို့ တင်ပြပြီး၊ သတ္တုတွင်းဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်အတိုင်း ကုမ္ပဏီမှ သတ်မှတ် ဒဏ်ကြေး ငွေ ပေးဆောင်စေပြီး၊ ခွင့်ပြုမိန့်အသစ် ထုတ်ယူရမည်။

၃၀-၇။ လုပ်ငန်းသဘောတူစာချုပ်နှင့်ပတ်သက်၍ အကြောင်းကြားစာနှင့် အခြားဆက်သွယ်မှုများကို စာတိုက်၊ စကားပြောကြေးနန်း၊ တဲလက်စ်၊ ဖက်ဆီမိုင်း၊ ကြိုးမဲ့ကြေးနန်း၊ ကြေးနန်းတို့ဖြင့် ပေးပို့သူက ကျသင့်ငွေ ကြိုတင်ပေးချေ၍ ပေးပို့ရမည်။ ထိုသို့ဆက်သွယ်ရာတွင် အောက်ဖော်ပြပါ လိပ်စာများအတိုင်း ဆက်သွယ် ဆောင်ရွက်ရမည်-

| သတလ(၂) | ကန်ထရိုက်တာ |
| --- | --- |
| ဦးသံပိုင် | ဦးစိုင်းအောင်သန်း |
| ဦးဆောင်ညွှန်ကြားရေးမှူး | မန်နေးဂျင်းဒါရိုက်တာ |
| အမှတ်(၂)သတ္တုတွင်းလုပ်ငန်း | အမှတ်(၄၃၄)၊ အကွက်အမှတ်(၄၃၃)၊ ၇၆လမ်း |
| နေပြည်တော် | ၃၂ လမ်းနှင့် ၃၃ လမ်းကြား၊ ကဥ္စဏာမဟီရပ်ကွက်၊ |
| | ချမ်းအေးသာစံမြို့နယ်၊ မန္တလေးမြို့ |

၃၀-၈။ တစ်ဖက်မှ တစ်ဖက်သို့ ဆက်သွယ်သောစာများကို လက်ခံရရှိကြောင်း ပြန်ကြားရပါမည်။

၃၀-၉။ **စာချုပ်အား လွှဲပြောင်းခြင်း**

ကန်ထရိုက်တာသည် သတလ(၂)နှင့် သတ္တုတွင်းဝန်ကြီးဌာန၏ ကြိုတင်သဘောတူခွင့်ပြုချက်မရဘဲ၊ လုပ်ငန်းသဘောတူစာချုပ်ပါ တာဝန်ဝတ္တရားအားလုံးအား အခြားပုဂ္ဂိုလ်အဖွဲ့အစည်းများသို့ လွှဲပြောင်းခြင်း (သို့မဟုတ်) လုပ်ငန်းတစ်စိတ်တစ်ဒေသကို အပ်နှံဆောင်ရွက်စေခြင်းတို့ကို မပြုလုပ်ရ။

၃၀-၁၀။ **စာချုပ်အားပြင်ဆင်ဖြည့်စွက်ခြင်း**

လုပ်ငန်းသဘောတူစာချုပ်အား စာချုပ်ဝင်နှစ်ဖက် စာဖြင့် သဘောတူညီမှုမပါဘဲ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း လုံးဝမပြုလုပ်ရ။ လုပ်ငန်းသဘောတူစာချုပ် ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများသည် သတ္တုတွင်းဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့်သာ အတည်ဖြစ်စေရမည်။ ယင်းပြင်ဆင်ဖြည့်စွက်ချက်များကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မှတ်တမ်းတင်နိုင်ရန် ပေးပို့ဆောင်ရွက်ရမည်။

၃၀-၁၁။ **စာချုပ်အားပြန်လည်ညှိနှိုင်းခြင်း**

လုပ်ငန်းသဘောတူစာချုပ်သက်တမ်းအတွင်း၌ ကန်ထရိုက်တာနှင့် သတလ(၂)တို့ ကြိုတင်မမျှော်မှန်းနိုင်သော အခြေအနေတစ်ခုခု ပေါ်ပေါက်လာသည့်အပြင် လုပ်ငန်းလိုအပ်ချက်အရ လုပ်ငန်းသဘောတူစာချုပ် ပြင်ဆင်ရန်လိုအပ်ပါ ကနှစ်ဦးနှစ်ဖက်စာဖြင့်သဘောတူညီချက်ဖြင့် လုပ်ငန်းသဘောတူစာချုပ်ကို ပြင်ဆင်နိုင်သည်။ သို့သော် လုပ်ငန်းသဘောတူစာချုပ်၏ မူလရည်ရွယ်ချက်အား ပျက်ပြယ်သွားခြင်းမရှိစေရ။

၃၀-၁၂။ လုပ်ငန်းသဘောတူစာချုပ်တွင် ပူးတွဲပါရှိသော နောက်ဆက်တွဲများအားလုံးသည် လုပ်ငန်းသဘောတူစာချုပ်၏ အစိတ်အပိုင်းတစ်ရပ်ဖြစ်စေရမည်။

## အပိုင်း ( ၃၁ )

## အကျိုးသက်ရောက်မှု

၃၁။ လုပ်ငန်းသဘောတူစာချုပ်သည် ( ) ရက်နေ့မှ ( ) ရက်နေ့ထိ (၁၀)နှစ်သက်ဝင်အကျိုးသက်ရောက်ရမည်။

## အပိုင်း ( ၃၂ )

## အစစ်အမှန်ဖြစ်ခြင်း

၃၂။ လုပ်ငန်းသဘောတူစာချုပ်အား မြန်မာဘာသာဖြင့်ရေးသားပြီး မူရင်း(၂)အုပ်သာရှိ၍ တစ်ဖက်စီ၌ တစ်အုပ်စီ ရှိရမည်။ လုပ်ငန်းသဘောတူစာချုပ်မိတ္တူကို လိုအပ်ပါက အစိုးရရုံးအဖွဲ့အစည်းများနှင့် ဆက်သွယ်ရာတွင် သုံးစွဲခွင့်ရှိသည်။

လုပ်ငန်းသဘောတူစာချုပ်ကို အထက်တွင်ဖော်ပြထားသော ------ ရက် ------------------
လ နှင့် ------------ ခုနှစ်တွင် အောက်ပါအတိုင်း နှစ်ဦးနှစ်ဖက်သဘောတူလက်မှတ်ရေးထိုးကြပါသည် -

| အမှတ်(၂)သတ္တုတွင်းလုပ်ငန်း(ကိုယ်စား) | ကန်ထရိုက်တာ(ကိုယ်စား) |
|---|---|
| ဦးသံဒိုင် | ဦးစိုင်းအောင်သန်း |
| ဦးဆောင်ညွှန်ကြားရေးမှူး | မန်နေးဂျင်းဒါရိုက်တာ |
| အမှတ်(၂)သတ္တုတွင်းလုပ်ငန်း | အမှတ်(၄၃၄)၊ အကွက်အမှတ်(၄၃၃)၊ ၇၆လမ်း |
| နေပြည်တော် | ၃၂ လမ်းနှင့် ၃၃ လမ်းကြား၊ ကဥ္စနာမဟီရပ်ကွက်၊ |
| | ချမ်းအေးသာစံမြို့နယ်၊ မန္တလေးမြို့ |

ကျွန်ုပ်တို့၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးပါသည်။

အသိသက်သေများ

| (၁) | (၂) |
|---|---|
| လက်မှတ် ........................ | လက်မှတ် ........................ |
| အမည် ........................ | အမည် ........................ |
| မှတ်ပုံတင် ........................ | မှတ်ပုံတင် ........................ |
| ရာထူး ........................ | ရာထူး ........................ |
| ဌာန ........................ | ဌာန ........................ |

သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်မှ တနင်္သာရီတိုင်းဒေသကြီး၊ ယားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာ အုပ်စုအတွင်းရှိ ခဲမဖြူ၊ အဖြိုက်နက်၊ ရောရာသတ္တု အကြီးစား တူးဖော်ခွင့် လျှောက်ထားသည့် လုပ်ကွက်တည်နေရာပြမြေပုံ



သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်မှ ခဲမဖြူ၊ အဖြိုက်နက် ရောရောသတ္တုအကြီးစားတူးဖော်ထုတ်လုပ်ခွင့် လျှောက်ထားသည့် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာအုပ်စုရှိ ပကာရီဆင်းတွင်းကြီးသတ္တုလုပ်ကွက်၏ ဧရိယာအကျယ်အဝန်းနှင့် ပုံသဏ္ဌာန်ပြမြေပုံ

မြေပုံအမှတ်၊ 95 J/8




စကေး၊ ၁ လက်မ = ၁၀၀၀ ပေ

B 297607
180°, 2400'
C 305607
90°, 1200'
A 297603
300°, 1770'
D 302602
195°, 2200'
E 309600
270°, 3000'
106°, 4100'
H 293590
360°, 2100'
G 300590
360°, 2700'
F 309590

ဧရိယာ = 403.93 ဧက




# UNITED AMARA BANK LTD.

Date : 17/09/2014

To

004010100005269

MINING WORLD COMPANY LIMITED

We hereby certify that the balance standing at the Credit of the account of MINING WORLD COMPANY LIMITED NRC No: A/ No: 004010100005269 with UNITED AMARA BANK at the close of the business on the 17/Sep/2014 was MMK 100,001,000( One Hundred Million One Thousand ) Only.

Yours faithfully,

( Manager )

ACCOUNTS DEPARTMENT

Branch

United Amara Bank Ltd.

Head Office : Block (1) , (2) Oattara Thiri Asint Myint Zay , Yaza Thingaha Road, Oattara Thiri Township, Nay Pyi Taw, Myanmar. Tel : 067- 417301-10, Fax : 067- 417318, 067- 417319

Yangon Office : No (520. A/4), Kabaaye Pagoda Road, Bahan Township, Yangon , Myanmar. Tel : 01 - 8603009~18, Fax : 01 - 8603241



**KYAWESEKAN Branch**

Print Date : September 17, 2014

| | | | |
|---|---|---|---|
| A/c No. : | 004010100005269 | | |
| A/cType : | ShortTerm Current | | Currency : MMK |
| Name : | **MINING WORLD COMPANY LIMITED** | **SAI AUNG THAN(MANAGING DIRECTOR)** | **WIN TINT** |
| Reg. No.: | **566/2007-2008** | **13/LARANA(N)055004** | **13/LAYANA(N)023911** |
| | NO-213, 77ST,BET;(32X33)ST, CHANAYETHARSAN, MANDALAY, MYANMAR | | |

Date From : 24/04/2014 Date To : 17/09/2014



| SNo | TranDate | Desc | T/C | Debit | Credit | Balance |
|---|---|---|---|---|---|---|
| 1 | 24/04/2014 | CNT - CD | CD | | 10,000,000.00 | 10,000,000.00 |
| 2 | 29/04/2014 | CNT - CD | CD | | 1,000.00 | 10,001,000.00 |
| 3 | 29/04/2014 | HOME CHQ.:206926 | CW | 10,000,000.00 | | 1,000.00 |
| 4 | 16/05/2014 | CNT - CD | CD | | 200,000,000.00 | 200,001,000.00 |
| 5 | 21/05/2014 | CNT - CW | CW | 200,000,000.00 | | 1,000.00 |
| 6 | 17/09/2014 | CNT - CD | CD | | 100,000,000.00 | 100,001,000.00 |

Pri Date : 9/17/2014 **Balance :** 100,001,000.00

| Previous Balance | + | Total Deposit | - | Total Withdrawals | = | Total Balance |
|---|---|---|---|---|---|---|
| 0.00 | + | 310,001,000.00 | - | 210,000,000.00 | = | 100,001,000.00 |

Amount In Words : **MMK One Hundred Million One Thousand Only.**

No of Withdrawals = 2
No Of deposit = 4

Unless the Bank is immediately notified of any discrepancy found on the statement of account it will be taken that the account has been found correct.

CH = Cash
TR = Transfer
CL = Clearing
T/T = Type Of Transaction
T/C = Type of Transaction Code

MANAGER
ACCOUNTS DEPARTMENT

## MYANMA INVESTMENT AND COMMERCIAL BANK ,YANGON.

**ADVICE**

Ref No. :.140522E0064ETT

Mining World Co; Ltd.

DATE : 26/05/2014

YANGON

DEAR SIRS,

WE ADVISE HAVING TODAY CREDITED TO YOUR ACCOUNT NO. FDM101076

USD 300,000.00

BEING 100% OF EXPORT ADVANCE PAYMENT BY T.T REMITTED FROM OCBC BANK ,SINGAPORE UNDER REF NO. CT0005839458M001
COMMODITY: OTHER TIN-CONCENTRATE

YOURS FAITHFULLY,

ASST: MANAGER MANAGER

EXPORT DEPARTMENT

# MYANMA INVESTMENT AND COMMERCIAL BANK ,YANGON.

## ADVICE

Ref No. : 140522E0064ETT

Mining World Co; Ltd.




DATE : 26/05/2014

DEAR SIRS,

WE ADVISE HAVING TODAY DEBITED TO YOUR ACCOUNT NO. FDM101076

USD 10.37

BEING COMMISSION AND SWIFT CHARGES FOR ADVANCE T.T
AMOUNT USD 300000.00

YOURS FAITHFULLY,

ASST. MANAGER MANAGER

EXPORT DEPARTMENT

**MINING WORLD COMPANY LIMITED**

No.85?, A...rni Street, Tharetpyin Ward, Dawei Township, Tanintharyi Division, Myanmar.
: 092018562, 098741414, 098575127, 098752076



## ထောက်ခံချက်

သတ္တုတူးဖော်ခြင်း ကမ္ဘာ့ကုမ္ပဏီ မှ မြေပုံညွှန်း

95 J/8 A-297603, B-297607, C-305607
D-302602, E-309600, F-309590
G-300590, H-293590, (၄၁၆) ဧက

အား ထားဝယ်မြို့ အလိုက်နက် အကြီးစား သတ္တု လုပ်ကွက် လျှောက်ထားမှု အပေါ် ကန့်ကွက်ချင်း မရှိကြောင်း လက်မှတ်ရေးထိုးပါသည်။

| စဉ် | အမည် | နိုင်ငံသားမှတ်ပုံတင်အမှတ် | နေရပ် | လက်မှတ် |
|---|---|---|---|---|
| 1 | ဦးဘသမ် | ၆/ထဝန(နိုင်)၀၄၃၇၃၈ | ပကာရီ ဆန်းချို(၂) | (signature) |
| 2 | ဦးကြီးမေ | ၆/ထဝန(နိုင်)၀၄၃၉၀၂ | ပကာရီ ဆန်းချို(၂) | (signature) |
| 3 | ဦးမောင်သင်း | ၆/ထဝန(နိုင်)၀၄၃၇၇၉ | ပကာရီ ဆန်းချို(၂) | (signature) |
| 4 | ဦးကျင်စိုး | ၆/ထဝန(နိုင်)၀၄၃၇၁၇ | ပကာရီ ဆန်းချို(၂) | (signature) |
| 5 | ဦးငွေညိုင် | ၆/ထဝန(နိုင်)၀၄၃၇၇၄ | ပကာရီ ဆန်းချို(၂) | (signature) |
| 6 | ဦးတင်မေ | ၆/ထဝန(နိုင်)၀၄၃၇၄၈ | ပကာရီ ဆန်းချို(၂) | တင်မေ |
| 7 | ဦးဇော်ဇော် | ၆/ထဝန(နိုင်)၀၈၂၇၀၃ | ပကာရီ ဆန်းချို(၂) | (signature) |
| 8 | ဦးကျော်စွာလွင် | ၆/ထဝန(နိုင်)၀၈၂၈၆၂ | ပကာရီ ဆန်းချို(၂) | (signature) |
| 9 | ဦးမိုးဇော | ၆/ထဝန(နိုင်)၀၆၃၀၀၂ | ပကာရီ ဆန်းချို(၂) | (signature) |
| 10 | ဦးရှာခါကျော် | ၆/ထဝန(နိုင်)၀၆၉၃၉၀ | ပကာရီ ဆန်းချို(၂) | (signature) |

ကန့်ကွက်ရန်မရှိပါကြောင်း ထပ်ဆင့်ထောက်ခံအပ်ပါသည်။

ကျေးရွာအုပ်စုအုပ်ချုပ်ရေးမှူး
ပကားရီကျေးရွာအုပ်စု




ထောက်ခံချက်

သက်ဆိုင်ရာသို့

တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ် ပကာရီကျေးရွာအုပ်စု၊ အမှတ်(၂)ကျေးရွာတွင် လက်ရှိနေထိုင်လျက်ရှိသော သတ္တုတူးဖော်ခွင့် ကမ္ဘာ လုပ်ငန်းကို သည်၊ နိုင်ငံသား သတ္တုလုပ်ကွက် ကျောက်ထားမှုနေရာ ဒေသခံ ဥယျာဉ်ခြံမြေ များနှင့် ကင်းလွတ်မှုရှိပြီး သက်ဆိုင်ရာ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်ပါက ကာလ တစ်ကူ ကန့်ကွက်ရန်မရှိပါကြောင်း၊ ထောက်ခံအပ်ပါသည်။

၁၇.၂.၂၀၁၃

(လှိုင်မင်းထွန်း)
ကျေးရွာအုပ်စုအုပ်ချုပ်ရေးမှူး
ပကာရီကျေးရွာအုပ်စု

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

သတ္တုတွင်းဝန်ကြီးဌာန

ဘူမိဗေဒလေ့လာရေးနှင့်ဓာတ်သတ္တုရှာဖွေရေးဦးစီးဌာန

နေပြည်တော်

စာအမှတ်၊ ၁၂၉၁/၂၅၉၆ / ဘစမ / ၂၀၁၃

ရက်စွဲ၊ ၂၀၁၃ ခုနှစ် စက်တင်ဘာလ ၃၂ ရက်

သို့

ဦးဆောင်ညွှန်ကြားရေးမှူး

အမှတ်(၂)သတ္တုတွင်းလုပ်ငန်း

အကြောင်းအရာ။ **သတ္တုသိုက်တန်ချိန်ပမာဏနှင့်ပါဝင်နှုန်းတို့အား စိစစ်ပြန်ကြားခြင်း**

ရည်ညွှန်း ချက်။ အမှတ်(၂)သတ္တုတွင်းလုပ်ငန်း၏ ၂၉.၈.၂၀၁၃ ရက်စွဲပါစာအမှတ်၊ ၉၈၀/ ခဲမဖြူ-အဖြိုက်-အကြီးစား(ပကာရီ)/ ၁၃

၁။ တနင်္သာရီတိုင်းဒေသကြီး ထားဝယ်မြို့နယ် ပကာရီကျေးရွာအုပ်စု ပကာရီ၊ ဆင်တွင်းကြီး (မြေပုံညွှန်း ၉၅ ဂျေ/ ၈၊ ၂၉၇၆၀၃၊ ၂၉၇၆၀၇၊ ၃၀၅၆၀၇၊ ၃၀၂၆၀၂၊ ၃၀၉၆၀၀၊ ၃၀၉၅၉၀၊ ၃၀၀၅၉၀၊ ၂၉၃၅၉၀) ရည်ညွှန်း လုပ်ကွက် (၄၁၆ ဧက) တွင် ခဲမဖြူ-အဖြိုက်နက်ရောရာအကြီးစား တူးဖော်ထုတ်လုပ်ခွင့်ပြုပါရန် သတ္တုတူးဖော်ခြင်း ကုမ္ပဏီလီမိတက်မှ လိုအပ်ချက်များ ပြန်လည်ဖြည့်ဆည်း တင်ပြလာသည့် စမ်းသပ်တိုင်းတာရေး အစီရင်ခံစာအား ဤဦးစီးဌာန၏ ကျွမ်းကျင်မှုကော်မတီမှ စိစစ်ခဲ့ပါသည်။

၂။ ကုမ္ပဏီ၏ စမ်းသပ်တိုင်းတာရေးအစီရင်ခံစာတွင် ပကာရီ၊ ဆင်တွင်းကြီးလုပ်ကွက်ဒေသနှင့်ဝန်းကျင်၌ Lower Carboniferous to Lower Permian သက်တမ်းရှိ မြိတ်ကျောက်စဥ်စုဝင် Quartzite, Phyllite နှင့် Argilite ကျောက်လွှာများအတွင်းသို့ ခဲမဖြူ-အဖြိုက်နက်ကြွယ်ဝသော သလင်းကြောများ တိုးဝင်နေကြောင်း၊ ဆင်တွင်းကြီးဒေသလုပ်ကွက်အတွင်း ခဲမဖြူ-အဖြိုက်နက်သတ္တုဖြစ်ထွန်းမှုအား ပင်ရင်းသိုက် (Primary deposit) နှင့် တောင်စောင်းကြေပျက်သိုက် (Eluvial deposit) အနေဖြင့်တွေ့ရကြောင်း ဘူမိဗေဒအား ရှင်းလင်းတင်ပြ ထားပါသည်။

၃။ ကုမ္ပဏီသည် လုပ်ကွက်အတွင်း မြေပြင်ကွင်းဆင်းတိုင်းတာရေးလုပ်ငန်းများ ဆောင်ရွက်ခဲ့ပြီး ၁၀ ပေ ခြားမြေပြင်နိမ့်မြင့်ပြမြေပုံရေးဆွဲထားခြင်း၊ Block A, B, C, D, E, F, G နှင့် H အတွင်း အစမ်းကျင်း ၆၈ ကျင်း အား Block တစ်ခုစီ၏ ဇုန်နယ်မြေများအဖြစ် သတ်မှတ်တူးဖော်ပြီး သတ္တုပါဝင်နှုန်းနှင့် တန်ချိန်ပမာဏကို ပြည့်စုံစွာ တွက်ချက်တင်ပြထားကြောင်း စိစစ်တွေ့ရှိရပါသည်။

D:\Daw Nilar\Thattu tanchain(Pamarna)(2012).doc(Y)

၄။ ဤဦးစီးဌာနသည် မြေပြင်ကွင်းဆင်းစစ်ဆေးဆောင်ရွက်နိုင်ခြင်းမရှိသော်လည်း ကုမ္ပဏီအနေဖြင့် မြေပြင်နိမ့်မြင့်ပြမြေပုံရေးဆွဲထားခြင်း၊ နမူနာများ စနစ်တကျရယူတာဝင်ခွဲစပ်းသပ်ထားခြင်း၊ မြေပုံ၊ ဓာတ်ပုံနှင့် ဖြတ်ပိုင်းပုံများ ပြည့်စုံစွာတင်ပြထားခြင်း၊ ပါန်ချိန်ပတွက်ချက်ပုံနည်းစနစ်မှန်ကန်ခြင်းတို့ကြောင့် ပျမ်းမျှ ခဲမဖြူ ပါဝင်နှုန်း ၀.၄၇ ပေါင်/ကုဗကိုက်ရှိ Eluvial Deposit ၇၈၆၇၂၆၈.၅၀ ကုဗကိုက်မှ Mix Ore Concentrate ၁၇၉၈.၇၆ မက်ထရစ်တန်သည် လက်ခံနိုင်ဖွယ်ရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်
(ကျော်ဒင်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

D:\Daw Nilar\Thattu tanchain(Pamama)(2012).doc(Y)

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# သတ္တုတူးဖော်ခြင်း ကမ္ဘာ ကုမ္ပဏီလီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း



၁။ **ကုမ္ပဏီ**၏ အမည်သည် **သတ္တုတူးဖော်ခြင်း ကမ္ဘာ ကုမ္ပဏီလီမိတက်** ဖြစ်ပါသည်။

၂။ **ကုမ္ပဏီ**၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ **ကုမ္ပဏီ** တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် **၅၀၀,၀၀၀,၀၀၀** /-( **သန်းငါးရာ** တိတိ )ဖြစ်၍ ငွေကျပ် **၁၀၀,၀၀၀**/-(ကျပ် **တစ်သိန်း** တိတိ ) တန် အစုရှယ်ယာပေါင်း ( **၅၀၀၀** ) ခွဲထားပါသည်။ ကုမ္ပဏီ ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များနှင့် အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

<u>လျှို့ဝှက်</u>

၁။ နိုင်ငံတော်အစိုးရက ခွင့်ပြုထားသော အောက်ဖော်ပြပါကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်း၊ စိုက်ပျိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ပြုပြင်ခြင်း စသည့်လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မိမိတစ်ဦးတည်းဖြစ်စေ မည်သည့်ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်များနှင့် ဖက်စပ်၍ဖြစ်စေ လုပ်ကိုင်ရန်။

(၁) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံ အောင်ပြုပြင်ခြင်း ၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း။
(၂) (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်းနှင့် အသားသေစေခြင်း။
(၃) တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း။
(၄) ရေထွက်ကုန်ပစ္စည်းများအားဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း။
(၅) ဓါတ်မြေသြဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစားအစာများထုတ်လုပ်ခြင်း။
(၆) လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း။
(၇) အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း။
(၈) ယာဉ်နှင့် စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း။
(၉) လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း။
(၁၀) ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများ ထုတ်လုပ်ခြင်း။
(၁၁) စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း။
(၁၂) လျှပ်စစ်နှင့် အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း။
(၁၃) အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း။
(၁၄) အစိုးရ၏ ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသော ကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်။

၂။ ကုမ္ပဏီမှ သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် (သို့မဟုတ်) ငွေကြေးအဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်။

ခြွင်းချက် ။ ။ကုမ္ပဏီသည် အထက်ဖော်ပြပါရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ အချိန်ကာလ အားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့် ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း (သို့မဟုတ်) ခွင့်ပြုထားရှိခြင်းရှိမှသာလျှင် လုပ်ငန်းများကဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

လို့ဌက်

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည် ။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးစိုင်းအောင်သန်း<br>အမှတ်-(၁၅)၊ (၃၁)လမ်း နှင့် (၇၆) လမ်းကြား၊ ချမ်းအေးသာစံမြို့နယ်၊ မန္တလေးတိုင်း။<br>( ကုန်သည် ) | မြန်မာ<br>၁၃/လရန(နိုင်)<br>၀၅၅၀၀၄ | ၁၂၅ | |
| ၂။ | ဦးဝင်းတင့်<br>အမှတ်-(၄၄)၊ ဘီလမ်း၊ (၁)ရပ်ကွက်၊ ပြင်ဦးလွင်၊ မန္တလေးတိုင်း။<br>( ကုန်သည် ) | မြန်မာ<br>၁၃/လရန(နိုင်)<br>၀၂၈၉၁၁ | ၁၂၅ | |
| ၃။ | ဒေါ်စိုးစိုး<br>အမှတ်-(၁၅)၊ (၃၁)လမ်း နှင့် (၇၆) လမ်းကြား၊ ချမ်းအေးသာစံမြို့နယ်၊ မန္တလေးတိုင်း။<br>( ကုန်သည် ) | မြန်မာ<br>၁၃/လရန(နိုင်)<br>၀၉၃၀၈၄ | ၁၂၅ | |
| ၄။ | ဦးမောင်ရွှေ<br>အမှတ်-(၁၅)၊ (၃၁)လမ်း နှင့် (၇၆) လမ်းကြား၊ ချမ်းအေးသာစံမြို့နယ်၊ မန္တလေးတိုင်း။<br>( ကုန်သည် ) | မြန်မာ<br>၁၃/လရန(နိုင်)<br>၁၂၆၀၉၈ | ၁၂၅ | |
| ၅။ | ဒေါ်ခင်သက်သက်ဝေ<br>အမှတ်-(၂၁၃)၊ (၇၇)လမ်း၊ (၃၃) လမ်း နှင့် (၃၄) လမ်းကြား၊ချမ်းအေးသာစံမြို့နယ်၊ မန္တလေးတိုင်း။<br>( ကုန်သည် ) | မြန်မာ<br>၈/ပဖန(နိုင်)<br>၀၈၉၂၀၈ | ၅ | |

ရန်ကုန်။ နေ့စွဲ၊ ၂၀၁၂ ခုနှစ် ၊ ဧပြီလ ၊ ( ) ရက် ။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။



Soe Myint
Soe Myint & Firm
B.A,R.A,C.P.A.
Reg: No-372
Audit Firm Leader
No 113,3rd Fl;49th, st Pazundaung Tsp
Yangon Tel 293583

လျှို့ဝှက်

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# သတ္တုတူးဖော်ခြင်း ကမ္ဘာ ကုမ္ပဏီလီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ



၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာမနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသောဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏အစုရှင်အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မ တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ဤကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းမှာ ကျပ် ၅၀၀,၀၀၀,၀၀၀/-(ကျပ် သန်းငါးရာ တိတိ) ဖြစ်၍ ငွေကျပ် ၁၀၀,၀၀၀/-(ကျပ် တစ်သိန်း တိတိ) တန် အစုရှယ်ယာပေါင်း (၅၀၀၀) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများ နှင့်သက်ရှိပြဋ္ဌာန်းပြီး တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေ ရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေတစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကိုခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်း တို့ကို ဆောင်ရွက်နိုင်သည်။

---

လို့ဖွက်

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါကအဖိုးအခဖြင့်ပြန်လည်အသစ်ပြုလုပ်ပေးမှုကိုသော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသောအခြားသက်သေခံ အထောက်အထားတစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စား လှယ်ကို ဒါရိုက်တာများက အသိအမှတ် ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများက သတ်မှတ်သည့်ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့်နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ဆင့်ခေါ်မှုတစ်ခုအတွက်အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာသတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ )ဦးထက်မနည်း၊ ( ၁၅ ) ဦးထက်မများစေရ။
ပထမဒါရိုက်တာများသည် –

(၁) ဦးစိုင်းအောင်သန်း
(၂) ဦးဝင်းတင့်
(၃) ဒေါ်စိုးစိုး
(၄) ဦးမောင်ရွှေ
(၅) ဒေါ်ခင်သက်သက်ဝေ တို့ ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှတစ်ဦးကို မန်နေးဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဉာဏ်ပူဇော်ခများဖြင့်ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများအားလုံးကို ၎င်းကအသုံးပြုနိုင်သည်။
၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာအနည်းဆုံး ( – ) စု ကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။
၁၀။ အစုရှယ်ယာများလွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့ သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန်တွေ့ဆုံဆွေးနွေးခြင်း၊ အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။အစည်းအဝေးတွင်မည်သည့်ပြဿနာမဆိုပေါ်ပေါက်ပါက မန်နေးဂျင်းဒါရိုက်တာ၏အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့်ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။
၁၂။ ဒါရိုက်တာများ၏အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေးခေါ်နိုင်သည်။

လျှို့ဝှက်

၁၂။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ (က) ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲ ဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ –

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသော မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သော စည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကိုချေးငှားရန် သို့မဟုတ် အဆိုပါချေးငှားသော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင် ၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိနှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များကို ထုတ်ဝေရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူး၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကို အမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏ တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များတွက် ကုမ္ပဏီ၏ မည်သည့် အရာရှိကိုမဆို ကိစ္စရပ်အားလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကို ဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသောစည်းကမ်းများဖြင့် လက်ခံရန်။

လို့ဖွက်

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသော တောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့်စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီး မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ် ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျှောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင် သဘောတူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီက ခန့်အပ်ထားသော မည်သည့်အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါ ကော်မရှင်များ၊ အမြတ်များ ခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏ လုပ်ငန်းများ၊ အရာရှိများ၊ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

---

<u>လျှို့ဝှက်</u>




ကျေး ရွာ အုပ် စု အုပ် ချုပ် ရေး မှူး ရုံး
ပ ကာ ရီ ကျေး ရွာ အုပ် စု ၊ ထား ဝယ် မြို့ နယ်
စာအမှတ် ၊
ရက်စွဲ ၊ ၂၀၁၄ ခုနှစ်၊ ဧပြီလ ( ၁၀ ) ရက်

## သက်ဆိုင်ရာသို့ သဘောထားထောက်ခံချက်တင်ပြခြင်း

တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာအုပ်စု၊ ဆန်းချီ (၂) ကျေးရွာအနီး အမှတ်(၂) သတ္တုတွင်းလုပ်ကန်းနှင့် အသေးစားဖက်စပ်သတ္တုထုတ်လုပ်နေသော သတ္တုတူးဖော်ခြင်းကမ္ဘာ ကုမ္ပဏီ လီမိတက်သည် (၁၈-၃-၂၀၁၁)နေ့မှစ၍ ထုတ်လုပ်ခွင့်ရပြီး ဥပဒေနှင့်အညီ ထုတ်လုပ်ခဲ့ရာ လျာထားချက် ပြည့်မှီ၍ နိုင်ငံတော်သို့ပေးဆောင်ရမည့် သတ္တုအချိုးကျတာဝန်များကိုလည်း ကျော်လွန်အောင် ပေးဆောင်နိုင်သကဲ့သို့ အလုပ်သမား (၃၀)ကျော်ခန့်ကိုလည်း အလုပ်သမားတစ်ဦးလျှင် အမျိုးသမီးလုပ်အားခ ၃၅၀၀ိ/- နှင့် အမျိုးသားလုပ်အားခ ၄၅၀၀ိ/- ထိပေးဆောင်ကာ (၃)နှစ်ကျော်အထိ ဆောင်ရွက်လာခဲ့ပါသည်။ ခွင့်ပြုချက် ဧရိယာ အတွင်း ကျူးကျော်စိုက်ပျိုးထားသည့် တောင်သူ (၆)ဦးတို့၏ မြေဧရိယာ( ၂၀ ) ဧကကိုလည်း ဒေသဆိုင်ရာ အာဏာပိုင်များနှင့် ညှိနှိုင်းသဘောတူစာချုပ်ဖြင့် ကျပ်ငွေသိန်း ( ၁၃၅ )ကို ပံ့ပိုးထောက်ပံ့ လျော်ကြေးအဖြစ် ပေးချေပြီး အဆင်ပြေချောမွေ့စွာဖြင့် ယခုအခါ ၎င်းဧရိယာအတွင်း သတ္တုလက်ကျန်များကို အကြီးစားအဖြစ် ထုတ်လုပ်ရန် တိုင်းဒေသကြီးအစိုးရ၏ သဘောထားထောက်ခံချက်ဖြင့် သတ္တုတွင်းဝန်ကြီးဌာန၏ စာချုပ်ချုပ်ဆိုရန် အဆင့်သို့ ရောက်ရှိနေကြောင်း သိရှိရပါသည်။

သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီသည် ပကာရီကျေးရွာအုပ်စုတွင် ရပ်ရေးရွာရေး၊ ပညာရေး၊ ကျန်းမာရေး အစသဖြင့် လိုအပ်သလို ကူညီဆောင်ရွက်ပေးပါသည်။ ရပ်ရွာအတွက် လိုအပ်သော အကူအညီများတောင်းခံပါက မဆိုင်းမတွ အကူအညီပေးခြင်း၊ ပညာရေးအတွက် သင်ထောက်ကူပစ္စည်းများ ထောက်ပံ့ပေးခြင်း၊ ပညာရေး အဆောက်အဦးအတွက် လိုအပ်သည်များ လှူဒါန်းပေးခြင်း၊ သာသနာရေး အဆောက်အဦးများ ဆောက်လုပ်ရန် အတွက် ယန္တယားများဖြင့် ကူညီသည့်အပြင် လိုအပ်သလို ကူညီပေးခြင်းနှင့် ကျန်းမာရေးအတွက် လိုအပ်သောအခါ တွင်လည်း ကားဖြင့်ဖြစ်စေ လိုအပ်သလို ကူညီဆောင်ရွက်ပေးပါသည်။ ၎င်းကုမ္ပဏီသည် ကျေးရွာ အုပ်ချုပ်ရေးမှူး၏ အနီးကပ်စီမံခန့်ခွဲမှု၊ မြို့နယ်အုပ်ချုပ်ရေးမှူးနှင့် ဌာနဆိုင်ရာတို့၏ ကြီးကြပ်လမ်းညွှန်မှုများအား ခံယူဆောင်ရွက်နေ သော ကုမ္ပဏီဖြစ်ပါသည်။

ယခုကဲ့သို့ အကြီးစားတိုးတက်ထုတ်လုပ်ခြင်းဖြင့် ခွင့်ပြုဧရိယာအတွင်း ဥပဒေနှင့်အညီ ဆောင့်ရွက်ရမည် ဖြစ်၍ ၎င်းကျေးရွာအုပ်စု တိုးတက်ဖွံ့ဖြိုးရေး၊ အထောက်အကူပြုအဖွဲ့ ရပ်မိ/ရပ်ဖများနှင့် ကျေးရွာအုပ်ချုပ်ရေးမှူး တို့မှ လိုက်လှဲစွာ ထောက်ခံအပ်ပါသည်။

ကျေးရွာအုပ်စုအုပ်ချုပ်ရေးမှူး
ပကာရီကျေးရွာအုပ်စု
ထားဝယ်မြို့နယ်

# မာတိကာ

# သဘာဝပတ်ဝန်းကျင်ထိခိုက်မှု လေ့လာဆန်းစစ်ချက် အစီရင်ခံစာ

# (ENVIRONMENTAL IMPACT ASSESSMENT) တင်ပြချက်များ



သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်

(MINING WORLD Co., Ltd)

# ပတ်ဝန်းကျင်ထိခိုက်လေ့လာဆန်းစစ်ချက်အစီရင်ခံစာ

# (ENVIRONMENTAL IMPACT ASSESSMENT)

**နိဒါန်း**

၁။ သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက် (Mining World Co., Ltd)သည် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာအုပ်စုအတွင်းရှိ ပကာရီ- ဆင်းတွင်းကြီးလုပ်ကွက် ဧရိယာ(၄၀၃.၉၃) ဧက၊ ခန့်မှန်းမြေပုံညွှန်း၊ 95 J / 8 (A- 297 603, B- 297 607, C- 305 607, D- 302 602, E- 309 600, F- 309 590, H- 293 590)၌ ခဲမဖြူ အဖြိုက်နက်ရောရာသတ္တုအကြီးစား (Large Scale Mine)တူးဖော်ထုတ်လုပ်ခွင့်ကို လိုအပ်သောအချက်အလက် ပြည့်စုံစွာဖြင့်လျှောက်ထားခဲ့ရာ အမှတ်(၂)သတ္တုတွင်းလုပ်ငန်းအနေဖြင့် သတ်မှတ်လုပ်ထုံးလုပ်နည်းများအတိုင်း ဆက်လက်ဆောင်ရွက်ခဲ့မှုအရ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ **"ကန့်ကွက်ရန်မရှိကြောင်း"** သဘောထားမှတ်ချက်ရရှိခဲ့ပြီးဖြစ်သည့်အပြင် ထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့်စနစ်ဖြင့် နှစ်ဖက်သဘောတူချုပ်ဆိုမည့်စာချုပ်(မူကြမ်း)ပါ အချက်အလက်များကိုလည်း ရှေ့နေချုပ်ရုံး၏အတည်ပြုချက်ရရှိခဲ့ပြီးဖြစ်သဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တူးဖော်ထုတ်လုပ်ခွင့်ပြုမိန့်ရရှိရေးအတွက်တင်ပြရာတွင်လိုအပ်သောသဘာဝပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှု လေ့လာဆန်းစစ်ချက်အစီရင်ခံစာ(ENVIRONMENTAL IMPACT ASSESSMENT) အစီရင်ခံစာကို တင်ပြရခြင်းဖြစ်ပါသည်။

**စီမံကိန်းဆိုင်ရာအကျဉ်းချုပ်ဖော်ပြချက်**

၂။ အောက်ပါအတိုင်းဖော်ပြအပ်ပါသည် -

(က) သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်သည် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာအုပ်စုအတွင်းရှိ ပကာရီ- ဆင်းတွင်းကြီးဒေသ၌ ခဲမဖြူ အဖြိုက်နက်နှင့်ရောရာသတ္တုအသေးစားတူးဖော်ထုတ်လုပ်ခွင့်ပြုချက်ကို အောက်ပါအတိုင်းရရှိထားပြီး သတ်မှတ်ထုတ်လုပ်မှုလျာထားချက်ကို ပြည့်မီကျော်လွန်အောင်ထုတ်လုပ်လျက်ရှိပါသည် -

| | | |
|---|---|---|
| (၁) ပကာရီလုပ်ကွက် | (၂၁.၅.၂၀၁၀)ရက်နေ့မှ (၂၀.၅.၂၀၁၃)ရက်နေ့ထိ မူလသက်တမ်း(၃)နှစ် | **ခွင့်ပြုမိန့်အမှတ်** ၀၃၆၃/ ၂၀၁၃ |
| | (၂၁.၅.၂၀၁၃)ရက်နေ့မှ (၂၀.၅.၂၀၁၄)ရက်နေ့ထိ ပအကြိမ်သက်တမ်းတိုး(၁)နှစ် | |
| (၂) ရေပိုင်းလုပ်ကွက် | (၂၁.၅.၂၀၁၀)ရက်နေ့မှ (၂၀.၅.၂၀၁၃)ရက်နေ့ထိ မူလသက်တမ်း(၃)နှစ် | **ခွင့်ပြုမိန့်အမှတ်** ၀၃၆၂/ ၂၀၁၃ |
| | (၂၁.၅.၂၀၁၃)ရက်နေ့မှ (၂၀.၅.၂၀၁၄)ရက်နေ့ထိ ပအကြိမ်သက်တမ်းတိုး(၁)နှစ် | |
| (၃) ဆင်းတွင်းကြီးလုပ်ကွက် | (၁၈.၃.၂၀၁၁)ရက်နေ့မှ (၁၇.၃.၂၀၁၄)ရက်နေ့ထိ | **ခွင့်ပြုမိန့်အမှတ်** ၀၂၄၇/ ၂၀၁၁ |

(ခ) ကုမ္ပဏီသည် အထက်ပါအသေးစားလုပ်ကွက်များ၌ တူးဖော်ထုတ်လုပ်မှုဆောင်ရွက်နေစဉ်အတွင်း လုပ်ကွက်များ၌ သတ္တုကြော(Vein)များဖြစ်တည်မှုပေါ်မူတည်၍ ဘူမိဗေဒလေ့လာပညာရှင်များက စမ်းသပ်တိုင်းတာမှုပြုလုပ်ခဲ့ရာ စီးပွားဖြစ်ထုတ်လုပ်နိုင်သည့်အခြေအနေရှိသဖြင့် စမ်းသပ်တိုင်းတာ

မှုအစီရင်ခံစာ(Geological Survey Report)တင်ပြခဲ့ရာ ဘူမိဗေဒလေ့လာရေးနှင့်ဓာတ်သတ္တုရှာဖွေရေးဦးစီးဌာနမှ ပျမ်းမျှသတ္တုသားပါဝင်မှု(0.47 Lb/ Cu.yd)ရှိသော Eluvial Ore Deposit (7867268.50 Cu.yd)မှ ခဲမဖြူ အဖြိုက်နက်နှင့် ရောရာသတ္တုသန့်စင် (1798.76)Mts ကိုလက်ခံအတည်ပြုခဲ့ပြီးဖြစ်သဖြင့် အကြီးစားတူးဖော်ထုတ်လုပ်ခွင့်ကို ဆက်လက်လျှောက်ထားခဲ့ခြင်းဖြစ်ပါသည်။

(ဂ) စီမံကိန်းလုပ်ကွက်တည်နေရာမှာ ရန်ကုန်မြို့မှ အရှေ့တောင်ဘက်အဖြောင့်တိုင်းတာမှုအရ(၁၉၀)မိုင်ခန့်ကွာဝေးသော တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်မြို့နယ်မှ (၁၀)မိုင်ခန့်အကွာတွင် ပကာရီကျေးရွာတည်ရှိပြီး ၎င်းမှတစ်ဆင့် အရှေ့ဖက်(၁.၅)မိုင်ခန့်ကွာဝေးသောနေရာတွင်တည်ရှိပါသည်။ လုပ်ကွက်တည်နေရာသည် တောင်နှစ်ဖက်ကြားတွင်ရှိပြီး အရှေ့ဘက်(၂)မိုင်ခန့်အကွာတွင် ဓားသွေးကျောက်ရွာ၊ အနောက်ဘက်တွင် ဆန်းချို(၂)ရွာ၊ အနောက်မြောက်ဘက်(၁)မိုင်ခန့်အကွာတွင် ပကာရီကျေးရွာတို့တည်ရှိပါသည်။ လုပ်ကွက်၏မြောက်ဘက်နှင့် အရှေ့ဘက်တို့တွင် တောင်ကုန်းထူထပ်ပြီး အမြင့်ဆုံးတောင်မှာ ပေ(၈၀၀)ခန့် မတ်စောက်ပါသည်။ လုပ်ကွက်မှ ပကာရီကျေးရွာသို့သွားသောလမ်းသည် ရာသီမရွေးသွားလာနိုင်သည့်အခြေအနေရှိပြီး အသင့်အတင့်ကောင်းမွန်ပါသည်။ လုပ်ကွက်အတွင်း ပင်မချောင်းတစ်ခုစီဆင်းလျက်ရှိပြီး အခြားပင်မချောင်းတစ်ခု၏လက်တက်တစ်ခုမှာ လုပ်ကွက်တည်နေရာအတွင်း အနောက်တောင်ဘက်၌ စီးဆင်းလျက်ရှိပါသည်။ လုပ်ကွက်တည်နေရာအတွင်း အနောက်မြောက်ဘက်စွန်းတွင် Te Lu Pe ခဲမဖြူသတ္တုတွင်းဟောင်းတစ်ခုတည်ရှိပါသည်။

(ဃ) **ဒေသဝန်းကျင်အနေအထား**

(၁) သတ္တုတွင်းဝန်ကြီးဌာန၏ လုပ်ထုံးလုပ်နည်းအရပါရှိရန်လိုအပ်သောဒေသဆိုင်ရာသဘောထားမှတ်ချက်များဖြစ်သည့် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ **"ကန့်ကွက်ရန် မရှိကြောင်း"** သဘောထားမှတ်ချက်၊ ထားဝယ်မြို့နယ်အတွင်းရှိ သက်ဆိုင်ရာအစိုးရဌာနများ၏ သဘောထားမှတ်ချက်၊ ကျေးရွာအုပ်ချုပ်ရေးမှူးနှင့် ဒေသခံပြည်သူ(၁၀)ဦး၏ သဘောတူညီကြောင်းမှတ်ချက်များကို ရရှိထားပြီးဖြစ်ပါသည်။

(၂) စီမံကိန်းလုပ်ကွက်၏ အနောက်မြောက်ဘက်(၁.၅)မိုင်အကွာတွင် ပကာရီကျေးရွာတည်ရှိပြီး ၎င်းမှတဆင့် ကားလမ်းမကြီးအတိုင်း အရှေ့တောင်ဘက်သို့(၁၀)မိုင်အကွာ ကားလမ်းမကြီးအတိုင်းဆက်၍သွားပါက တနင်္သာရီတိုင်းဒေသကြီး၏မြို့တော် ထားဝယ်မြို့သို့ရောက်ရှိပါသည်။

(၃) ယခုတင်ပြသော ပကာရီ- ဆင်းတွင်းကြီးလုပ်ကွက် ဧရိယာ(၄၀၃.၉၃)ဧက၏ ပတ်ဝန်းကျင်တွင်သစ်တောကြိုးဝိုင်းများမရှိဘဲ သဘာဝအလျှောက်ပေါက်ရောက်လျက်ရှိသော ဝါးပင်များ၊

သစ်အညွှံစားအပင်များ၊ အချို့အနေရာတွင် ရာဘာပင်များ၊ ဥယျာဉ်ခြံမြေများသာရှိပါသည်။ လုပ်ကွက်ဧရိယာ၏ (၅)မိုင်ခန့်အကွာတွင် အခြေခံအဆောက်အဦများ၊ ရထားလမ်း၊ ဓာတ်အားလိုင်းစသည်တို့မရှိဘဲ ခိုင်ခန့်စွာဆောက်လုပ်ထားသော ဘုန်းကြီးကျောင်း၊ စာသင် ကျောင်းစသည်များသာရှိပါသည်။

(၄) ဒေသအတွင်းအာဏာသက်ရောက်မှုအနေအထားမှာ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ အာဏာတစ်ခုတည်းသာလျှင် သက်ရောက်မှုရှိပါသည်။

(၅) မြေလက်ဝယ်ထားရှိပိုင်ခွင့်နှင့် ဆက်စပ်မြေအသုံးချမှုတို့နှင့်စပ်လျဉ်း၍ စီမံကိန်းလုပ်ကွက်၏ မြေဧရိယာသည် လက်ရှိ၌ သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်မှ ခဲမဖြူ အဖြိုက်နက်နှင့်ရောရာသတ္တု တူးဖော်ထုတ်လုပ်ခွင့်ရရှိထားပြီးဖြစ်သော အသေးစားလုပ်ကွက်(၃)ကွက်၏ စုစုပေါင်းဧရိယာ(၁၄၇)ဧကဖြစ်ပြီး ကျန်ဧရိယာများအနေဖြင့် သတ္တုများဖြစ်ထွန်းနိုင်သည့် မြေအမျိုးအစားများဖြစ်ပြီး စိုက်ပျိုးမြေများမဟုတ်သည်ကိုတွေ့ရှိရပါသည်။

(၆) စီမံကိန်းလုပ်ကွက်ဝန်းကျင်တစ်ဝိုက်ရှိ ချောင်းငယ်များသည် ခက်ဖြာပုံသဏ္ဌာန် (Dentritic Pattern) စီးဆင်းလျက်ရှိပြီး လုပ်ကွက်၏အနောက်ဘက်ရှိ(၂)မိုင်အကွာတွင် တည်ရှိသော ပေါက်တိုင်းချောင်းမကြီးအတွင်းသို့ စီးဝင်လျက်ရှိကြပါသည်။ လုပ်ကွက်တည်နေရာအတွင်း မြောက်ဘက်(၂/၃)ပုံခန့်တွင် ဆန်းချီချောင်းသည် အနောက်မြောက်ဘက်မှ အရှေ့တောင်ဘက်ယွန်းယွန်းသို့ စီးဆင်းလျက်ရှိပါသည်။

## (င) စီမံကိန်းအကြောင်း အကျဉ်းချုပ်

သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်သည် ပကာရီနှင့် ရေဝိုင်းအသေးစား လုပ်ကွက် (၂)ခုအား (၂၁.၅.၂၀၁၀)ရက်နေ့မှ (၂၁.၅.၂၀၁၃)ရက်နေ့ထိလည်းကောင်း၊ ဆင်းတွင်းကြီး လုပ်ကွက်(၁)ကွက်အား (၁၈.၃.၂၀၁၁)ရက်နေ့မှ (၁၇.၃.၂၀၁၄)ရက်နေ့ထိလည်းကောင်း တူးဖော်ထုတ်လုပ်ခွင့် ရရှိချိန်မှစ၍သတ်မှတ်လျာထားချက်ထက် ကျော်လွန်ထုတ်လုပ်နိုင်ခဲ့ပါသည်။ ထိုသို့ ထုတ်လုပ်နေစဉ်ကာလအတွင်း အကြီးစားတူးဖော်ထုတ်လုပ်မှုကို ကူးပြောင်းနိုင်ရန်အတွက် လက်ရှိလုပ်ကွက်အပြင် အခြားဆက်စပ်ဧရိယာများ၌ သတ္တုကြောများဖြစ်တည်မှုအခြေအနေကို စူးစမ်းလေ့လာခဲ့ရာ တောင်ကြောများတလျှောက်တွင် မူရင်းသတ္တုသိုက်(Primary Deposit)များ ဖြစ်ထွန်းနေမှုကိုလည်းကောင်း၊ လုပ်ကွက်အတွင်းအနောက်မြောက်ဘက်တွင်တည်ရှိနေသော ယခင်သတ္တုတွင်းဟောင်း Te Lu Pe Mine ရှိခဲ့သည့်နေရာတွင် တောင်စောင်းကြေပျက်သိုက်(Eluvial Deposit)များ ဖြစ်ထွန်းနေမှုကိုလည်းကောင်း လေ့လာတွေ့ရှိရသဖြင့် သတ္တုများပိုမိုတူးဖော်ထုတ်လုပ်နိုင်ပြီး သတ္တုကဏ္ဍဖြင့်နိုင်ငံတော်၏အကျိုးစီးပွားကိုတစ်ထောင့်တစ်နေရာမှ မြှင့်တင်နိုင်ရန်အတွက် လူအင်အား၊ ငွေအင်အားများ၊ စက်ယန္တရားများအား

ခေတ်မီနည်းပညာများအသုံးပြု၍ အကြီးစားတူးဖော်ထုတ်လုပ်သွားရန်ရည်ရွယ်ကာ လျှောက်ထားခြင်းဖြစ်ပါသည်။ စီမံကိန်းဆောင်ရွက်မည့်လုပ်ကွက်၏ ဓာတ်သတ္တုသိုက်ပမာဏမှာ ဘူမိဗေဒလေ့လာရေးနှင့် ဓာတ်သတ္တုရှာဖွေရေးဦးစီးဌာန၏ အတည်ပြုချက်အရ Mix Ore Concentrate (1798.76)Mts ဖြစ်ပါသည်။ သတ္တုထွက်ကုန်မှာ ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုသန့်စင်များအား သတ္တုသားပါဝင်မှုအနည်းဆုံး(၆၅%)ရရှိစေရန် အဆင့်ဆင့်တူးဖော်ထုတ်လုပ်၊ အဆင့်မြှင့်သန့်စင်ထားသည့် အဆင့်မြှင့်သတ္တုသန့်စင်(Concentrate)ဖြစ်ပါသည်။

**(စ) ခန့်မှန်းတွက်ချက်ထားသော အရန်မြေနေရာ (သို့မဟုတ်) ရည်ညွှန်းဧရိယာအကျယ်အဝန်း**

သတ္တုတွင်းလုပ်ကွက်၏ ဧရိယာအကျယ်အဝန်းမှာ ကုမ္ပဏီမှ မူလလျှောက်ထားသော ဧရိယာအနေဖြင့်(၄၁၆)ဧကဖြစ်သော်လည်း မြို့နယ်မြေစာရင်းပုံစံ(၁၀၅)ရေးဆွဲထားသော မြေပုံညွှန်းများအရ အမှန်မြေဧရိယာ(၄၀၃.၉၃)ဧက (၁.၆၃)စတုရန်းကီလိုမီတာဖြစ်ပါသည်။

**(ဆ) အဆိုပြုတူးဖော်ရေးနည်းလမ်း**

သတ္တုတွင်းလုပ်ကွက်၌ ပင်ရင်းသတ္တုသိုက်(Primary Ore Deposit)များနှင့် တောင်စောင်းကြေပျက်သိုက်(Eluvial Deposit)နှစ်မျိုးလုံးရှိနေသဖြင့် Underground Mining Method ဖြင့်လည်းကောင်း၊ Open Cut Mining Method ဖြင့်လည်းကောင်း တူးဖော်မည်ဖြစ်ပါသည်။ Underground Mining Method ဖြင့်တူးဖော်ရာတွင် သတ္တုကြော၏ မာကြောမှုအခြေအနေပေါ်မူတည်၍ ယမ်းသုံးစွဲရန်လိုအပ်မည်ဆိုပါက ယမ်းဖောက်ခွဲအသုံးပြု၍ သတ္တုမြေစာများတူးဖော်မည်ဖြစ်ပြီး၊ Open Cut Mining Method ဖြင့်တူးဖော်ရရှိလာသော သတ္တုမြေစာများမှ သတ္တုပါဝင်မှုမရှိသော မြေစာများကိုဖယ်ရှား၍ ကျန်သတ္တုပါမြေစာများကို Earth Moving Equipment (EME) Stock Pile နည်းလမ်းဖြင့်စုပုံ၍ အဆင့်မြှင့်သန့်စင်သွားမည်ဖြစ်ပါသည်။

**(ဇ) ခန့်မှန်းတွက်ချက်ထားသော စီမံကိန်းသက်တမ်း**

မူလသက်တမ်းအဖြစ် (၁၀)နှစ်ခွင့်ပြုချက် လျှောက်ထားခြင်းဖြစ်ပါသည်။ မူလသက်တမ်းကုန်ဆုံးသည့်အခါ သတ္တုသိုက်လက်ကျန်(Ore Reserve)တည်ရှိမှုအပေါ် မူတည်၍ သတ္တုတွင်း ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး၊ လုပ်နည်းများနှင့်အညီ သက်တမ်းတိုးတူးဖော်ထုတ်လုပ်ခွင့် ဆက်လက်လျှောက်ထားမည်ဖြစ်ပါသည်။

**(ဈ) စီမံချက်ပါ ထုတ်လုပ်မှုနှုန်း**

(၁)နှစ်လျှင် သတ္တုသားပါဝင်မှု(၆၅%)နှင့်အထက်ရှိသောသတ္တုသန့်စင် အနည်းဆုံး(၅၀)မက်ထရစ်တန် ထုတ်လုပ်ရန်လျာထားပြီး စီမံကိန်းလုပ်ကွက်၏ ခွင့်ပြုကာလအတွင်း နှစ်အလိုက်ထုတ်လုပ်နိုင်မှုအပေါ် မူတည်၍ ကန်ထရိုက်တာနှင့် ဌာနတို့ နှစ်ဖက်ညှိနှိုင်းသတ်မှတ်သွားမည်ဖြစ်ပါသည်။

(ည) **ခန့်မှန်းကုန်ကျစရိတ်**

(၁)နှစ်လျှင်ကျပ်သိန်း(၄၀၀၀)ခန့်ကုန်ကျမည်ဟုခန့်မှန်းပါသည်။ မူလမတည်ရင်းနှီးငွေအဖြစ် ကျပ်သိန်း(၅၀၀၀)ဖြင့် ဆောင်ရွက်မည်ဖြစ်ပါသည်။ သတ္တုတူးဖော်ထုတ်လုပ်နိုင်မှုအပေါ် မူတည်၍ လိုအပ်သလို ထည့်ဝင်ရင်းနှီးမြှုပ်နှံသွားမည်ဖြစ်ပါသည်။

(ဋ) **ဒေသအတွင်းမိုင်းအဟောင်းနှင့် လက်ရှိမိုင်းများအကြောင်း**

ယခုလျှောက်ထားသော စီမံကိန်းလုပ်ကွက်အတွင်း၌ ယခင်ကတူးဖော်ခဲ့သော Te Lu Pe Mine သတ္တုတွင်း ဟောင်းတစ်ခုကိုတွေ့ရှိရပြီး၊ အရှေ့မြောက်ဘက်တွင် ဟာမြင်းကြီးသတ္တုတွင်း၊ မြောက်ဘက်တွင် ရက္ကန်းစင်တောင်သတ္တုလုပ်ကွက်နှင့် ပိန္နဲချောင်းလုပ်ကွက်ဟောင်းတို့ရှိပါသည်။ ဟာမြင်းကြီးသတ္တု တွင်းမှာ လက်ရှိတွင် ငွေထွန်းတောက်ကုမ္ပဏီမှ တူးဖော်ထုတ်လုပ်ခွင့်ရရှိထားသော သတ္တုတွင်းဟောင်း တစ်ခုဖြစ်ပါသည်။

(ဌ) **မြေပေါ်ရေနှင့် မြေအောက်ရေ**

စီမံကိန်းလုပ်ကွက်အတွင်း၌ သဘာဝအလျောက်တည်ရှိသော ဆန်းချီချောင်း(ဝက်သေချောင်း)မှ ရေကို (၁)နှစ်လျှင် (၁၀)လခန့်သုံးစွဲနိုင်မည့်အခြေအနေရှိသဖြင့် ပုံမှန်ရေရယူသုံးစွဲခြင်းသာဖြစ်၍ ၎င်းကိစ္စကြောင့် ရေလမ်းကြောင်းပြောင်းလဲမှုများ ဖြစ်ပေါ်နိုင်သည့်အခြေအနေမရှိနိုင်ပါ။ ဇီဝမျိုးကွဲ များပြောင်းလဲမှုမရှိနိုင်ပါ။ သဘာဝရေသယံဇာတများလည်း ပြောင်းလဲမှုမရှိနိုင်ပါ။ ထို့ပြင် Underground Mining Method ဖြင့်တူးဖော်သည့်အခါ ရေများထွက်ရှိခဲ့ပါက ရေလမ်း ကြောင်းပြောင်းလဲမှု၊ ပိတ်ဆို့မှု၊ သဘာဝရေသယံဇာတများ ပြောင်းလဲမှုမရှိစေရန်အတွက် ထွက်လာသော ရေများကို Pump ဖြင့်စုတ်ထုတ်ခြင်း၊ အကယ်၍ရေထွက်မှုများနေပါက တူးဖော်လျှက် ရှိသော Underground ကျင်း၏အခြားတစ်နေရာတွင် မူလကျင်းထက်မနက်သော ကျင်းငယ်တူး၍ မူလကျင်းနှင့် ဆက်သွယ်ကာ (Gravity Flow)ဖြင့် ရေများကိုစီးဆင်းစေပြီး ၎င်းရေများကို Pump ဖြင့်စုတ်ထုတ်ခြင်းများ ပြုလုပ်ဆောင်ရွက်မည်ဖြစ်ပါသည်။ သို့ဖြစ်၍ ရေလမ်းကြောင်းပြောင်းလဲခြင်း၊ ပိတ်ဆို့ခြင်း၊ သဘာဝရေသယံဇာတများပြောင်းလဲခြင်း မဖြစ်ပေါ်စေနိုင်ပါကြောင်း တင်ပြအပ်ပါသည်။

(ဍ) **ဆူညံမှုနှင့် တုန်ခါခြင်းအခြေအနေ**

၎င်းသတ္တုတွင်းလုပ်ကွက်၌ သတ္တုတူးဖော်မှု၊ အဆင့်မြှင့်တင် ဆေးကြောသန့်စင်မှုတို့ကြောင့် ဖြစ်ပေါ် လာသော ဆူညံမှုနှင့် တုန်ခါမှုအခြေအနေများမှာ ပတ်ဝန်းကျင်ကိုထိခိုက်မှုမရှိနိုင်ပါ။

(ပ) **ထိခိုက်လွယ်မြေပြန့်လွင်ပြင်နှင့် ကာကွယ်ထားသည့်ဧရိယာ**

သတ္တုတွင်းလုပ်ကွက်အတွင်း သတ္တုရိုင်းမြေစာများကို (EME) Stock Pile Method ဖြင့် စနစ်တကျ တူးဖော်စုပုံ၍ ဆောင်ရွက်သွားမည်ဖြစ်ပြီး သတ္တုတွင်းထူထောင်မှုကာလအတွင်း စီမံကိန်းလုပ်သား များ၏ နေထိုင်ရာနေရာများ၊ ရုံးအဆောက်အဦများ၊ သတ္တုသိုလှောင်ရုံ၊ ပစ္စည်းများထားသိုရာ

နေရာ၊ ယာဥ်ယန္တရားများအတွက်လိုအပ်သော စက်ဆီ၊ ချောဆီများသိုလှောင်သည့်နေရာများနှင့် အလှမ်းကွာဝေးအောင် စီစဥ်ဆောင်ရွက်ထားမည်ဖြစ်သဖြင့် ပတ်ဝန်းကျင်ကိုသော်လည်းကောင်း၊ အခြားနေရာများကို သော်လည်းကောင်း ထိခိုက်မှုမရှိနိုင်ပါ။

(ဏ) **စီမံကိန်းလုပ်ကွက်ပတ်ဝန်းကျင်အား အပေါ်စီးမှ မျက်မြင်တွေ့ရှိစစ်ဆေးနိုင်မည့်အနေအထား**

ဤသတ္တုတွင်းလုပ်ကွက်၏ မြေမျက်နှာသွင်ပြင်အနေအထားအရ လုပ်ကွက်၏ အရှေ့ဘက်နှင့်မြောက်ဘက်တို့တွင် တောင်ကုန်းထူထပ်မြင့်မားသည်ကိုတွေ့ရပြီး အမြင့်ဆုံးနေရာသည် လုပ်ကွက်အတွင်း ခန့်မှန်းမြေပုံညွှန်း၊ 297598 တွင်ရှိနေရာဖြစ်ပြီး ပေ(၈၀၀)ခန့်မြင့်ပါသည်။ ၎င်းနေရာမှ အပေါ်စီး၍ စီမံကိန်းလုပ်ကွက်၏ပတ်ဝန်းကျင်အား မျက်မြင်တွေ့ရှိစစ်ဆေးနိုင်သည့် အခြေအနေဖြစ်ပါသည်။

(တ) **ဒေသလူမှုစီးပွားရေးအဆောက်အအုံ**

(၁) **လူဦးရေတိုးပွားမှုနှုန်းနှင့် တည်နေရာ**

ဤဒေသဝန်းကျင်သည် လူဦးရေတိုးပွားမှုနှုန်း အသင့်အတင့်သာရှိပါသည်။

(၂) **အဓိကစီးပွားရေးနှင့် အလုပ်အကိုင်အခွင့်အလမ်း**

ဒေသခံများအနေဖြင့် ဥယျာဥ်ခြံမြေ စိုက်ပျိုးလုပ်ကိုင်ခြင်း၊ ရာသီသီးနှံများ တပိုင်တနိုင်စိုက်ပျိုးခြင်း၊ နီးစပ်ရာသတ္တုတွင်းလုပ်ကွက်များတွင် ပိဿာစားအလုပ်သမားများအဖြစ် လုပ်ကိုင်ကြခြင်းတို့ရှိပါသည်။

(၃) **အလုပ်လက်မဲ့အခြေအနေ**

မရှိပါ။

(၄) **အိုးအိမ်လိုအပ်ချက်ရရှိနိုင်စွမ်း**

ဒေသ၏အနေအထားအရ သဘာဝအလျှောက်ပေါက်ရောက်လျက်ရှိသော တောတောင်များမှ အိမ်ဆောက်လုပ်ရန်ဝါးများ၊ သစ်အညှာစားများကို လွယ်ကူစွာရရှိနိုင်ပါသည်။ လမ်းပန်းဆက်သွယ်ရေးကောင်းမွန်သဖြင့် ခိုင်ခန့်သောလူနေအိမ်အဆောက်အဦးများစွာရှိပါသည်။

(၅) **အများဆိုင်ရာအဆောက်အဦများ**

သတ္တုတွင်းလုပ်ကွက်၏ပတ်ဝန်းကျင်ကျေးရွာများတွင် ဘာသာရေးဆိုင်ရာဘုန်းကြီးကျောင်းများ၊ စာသင်ကျောင်းများ၊ ကျေးလက်ကျန်းမာရေးဆေးပေးခန်း၊ ပကာရီကျေးရွာရဲစခန်းတို့ရှိပါသည်။

(၆) **ရေ၊ မီးပြည့်စုံမှု**

အသင့်အတင့်သာရှိပါသည်။

(ထ) **ဒေသခံများ၏ အကြံပြုဆွေးနွေးချက်များ**

(၁) လျှောက်ထားသောလုပ်ကွက်သည် အကြီးစားတူးဖော်ထုတ်လုပ်မှုလုပ်ကွက်ဖြစ်ရာ လက်ရှိအသေးစားလုပ်ကွက်တူးဖော်ထုတ်လုပ်မှုထက် ကျွမ်းကျင်ပညာရှင်များ၊ သတ္တုတူးဖော်ရေး

လုပ်သားများ များစွာလိုအပ်မည်ဖြစ်သဖြင့် လုပ်ကွက်နှင့်အနီးဆုံးကျေးရွာများမှ လုပ်ငန်းကျွမ်းကျင်သောဒေသခံများကို ဦးစားပေး၍ ခန့်ထားရန်။

(၂) သတ္တုတူးဖော်ထုတ်လုပ်နိုင်မှု အခြေအနေပေါ်မူတည်၍ ဝင်ငွေပိုမိုတိုးတက်ရရှိလာပါက ဒေသအတွက်ပိုမိုထောက်ပံ့ကူညီပေးရန်။

(၃) သတ္တုများတရားမဝင်ခိုးထုတ်မှုမရှိစေရေးအတွက် ဒေသခံများနှင့် ပူးပေါင်းဆောင်ရွက်ရန်။

၃။ **စီမံကိန်း**

အောက်ပါအတိုင်းတင်ပြအပ်ပါသည် -

(က) ဒေသ၏လမ်းပန်းဆက်သွယ်ရေးကောင်းမွန်သဖြင့် သတ္တုတွင်းလုပ်ကွက်သို့လည်းကောင်း၊ ပတ်ဝန်းကျင်ကျေးရွာများသို့လည်းကောင်း၊ ထားဝယ်မြို့သို့လည်းကောင်း၊ မော်တော်ယာဉ်များ၊ မော်တော်ဆိုင်ကယ်များဖြင့် လွယ်ကူစွာသွားလာနိုင်ပါသည်။

(ခ) လုပ်ကွက်အတွင်း၌ သတ္တုရိုင်းမြေစာများတူးဖော်ခြင်းကြောင့် ဖြစ်ပေါ်လာသောကျင်းများအား ထပ်မံ၍ တူးဖော်ရန်မလိုအပ်တော့သည့်အချိန်တွင် စွန့်ပစ်သတ္တုမြေစာများဖြင့် စနစ်တကျပြန်လည်ဖို့ပေးခြင်း၊ EME ဖြင့်တူးဖော်ထားသောလုပ်ကွက်နေရာများကိုလည်း မြေကြီးပြန်လည်ဖို့ပေး၍ သစ်ပင်ပြန်လည်စိုက်ပျိုးပေးခြင်းဖြင့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိစေဘဲ စိမ်းလန်းစိုပြေအောင် ဆောင်ရွက်သွားပါမည်။

(ဂ) သစ်ပင်များစိုက်ပျိုးနိုင်ရန်အတွက် ပျိုးဥယျာဉ်တစ်ခုအား စနစ်တကျပျိုးထောင်ပြုစုထားပါမည်။

(ဃ) သတ္တုဆေးကြောသန့်စင်အဆင့်မြှင့်တင်မှုပြုလုပ်ရာတွင် ဓာတုဗေဒဆေးဝါးများမသုံးစွဲဘဲဆောင်ရွက်မည်ဖြစ်သဖြင့် အဆိပ်အတောက်မရှိနိုင်ပါ။ ထို့ပြင်ခဲမဖြူ အဖြိုက်နက်နှင့် ရောရာသတ္တုများသည် အဆိပ်အတောက်ဖြစ်စေသော သတ္တုမဟုတ်သည့်အပြင် တွဲဖက်၍ပါဝင်သော Pb, As, Fe စသည်တို့မှာ လွန်စွာနည်းပါး(Trace)သဖြင့် သဘာဝပတ်ဝန်းကျင်ကိုထိခိုက်မှုမရှိနိုင်ပါ။ ပိုမိုသေချာစေရန်အတွက် သတ္တုတူးဖော်ထုတ်လုပ်ခွင့်ရရှိသည့်အခါတွင် အခြားအဆိပ်အတောက်ဖြစ်စေသော (Associated Mineral)များ ပါဝင်မှု ရှိ/ မရှိ ဓာတ်မီဓာတ်ခွဲခန်းတွင်အသေးစိတ် စမ်းသပ်ဆောင်ရွက်စီမံသွားမည်ဖြစ်ပါသည်။

(င) သတ္တုဆေးကြောသန့်စင်ရာတွင်သုံးစွဲသော မှုန်ရောရည်များပါဝင်သည့် ရေနောက်များကို စနစ်တကျပြုလုပ်ထားသော ရေစစ်ကန်များသို့ပို့လွှတ်၍ အနည်ထိုင်စေပြီး ရေကြည်ကိုပြန်လည်အသုံးပြုသည့်စနစ်ဖြင့်ဆောင်ရွက်မည်ဖြစ်သဖြင့် ပတ်ဝန်းကျင်ကိုထိခိုက်ညစ်ညမ်းမှုမရှိနိုင်ပါ။ လက်ရှိတွင်အသေးစားလုပ်ကွက်များမှ စွန့်ပစ်သည့်မှုန်ရောရည်များကို သင့်တော်သောစွန့်ပစ်ကန်(ရေစစ်ကန်)ပြုလုပ်၍ စွန့်ပစ်လျက်ရှိရာ ၎င်းရေစစ်ကန်ကိုပိုမိုခိုင်ခန့်အောင်ပြုလုပ်ခြင်း၊ လိုအပ်ပါက ထပ်မံ၍ရေစစ်ကန်များပြုလုပ်မည်ဖြစ်ပါသည်။ မိုးရာသီတွင် မိုးများသည့်ကာလ၌ မိုးသည်းထန်စွာရွာသွန်းမှုကြောင့် ရေများအရှိန်ပြင်းစွာစီးဆင်းခဲ့ပါက ရေစစ်ကန်များ ကျိုးပေါက်ခြင်းမရှိစေရန်အတွက် သတ္တုတွင်းထူထောင်မှုကာလအတွင်း ရေစစ်ကန်ဘောင်များကို ခိုင်ခန့်စွာဆောင်ရွက်ထားမည်ဖြစ်ပါသည်။

(ဓ) သတ္တုတွင်းလုပ်သားများ၊ ကျွမ်းကျင်ပညာရှင်များ၏ ဘေးကင်းလုံခြုံမှုရှိစေရန်အတွက် လိုအပ်သော သတ္တုတွင်းသုံးဦးထုပ်များ၊ လက်အိပ်၊ နှာခေါင်းစည်း၊ လုပ်ငန်းသုံးဖိနပ်များ၊ ဝတ်စုံများကို အသင့်ပံ့ပိုးပေးမည်ဖြစ်ပါသည်။

(ဆ) **တည်ဆောက်ရေးအဆင့်များဆောင်ရွက်ရန်စီမံချက်၊ အလုပ်တိုက်ရိုက်ခန့်အပ်ရန်ဆောင်ရွက်မှု၊ ရေ / မီးသုံးစွဲမှုနှင့် အရင်းအမြစ်၊ မြေသားဖယ်ရှားမှု၊ ဖြည့်တင်းမှုနှင့် လွန်ဖောက်မှုများတည်ဆောက်ရေးပစ္စည်းများသယ်ယူသိုလှောင်မှုစီမံချက်**

(၁) နိုင်ငံတော်မှ တူးဖော်ထုတ်လုပ်ခွင့်ပြုမိန့်ရရှိသောအခါတွင် သတ္တုတွင်းထူထောင်မှုကို ဦးစွာပြုလုပ်ရပါသည်။ အကြီးစားသတ္တုတွင်းတူးဖော်ထုတ်လုပ်ခွင့်ပြုရာတွင် တူးဖော်ထုတ်လုပ်သည့်ကာလသို့မရောက်မီ သတ္တုတွင်းထူထောင်မှုကာလကို (၁)နှစ်သတ်မှတ်ထားရာ ထိုကာလအတွင်း သတ္တုတွင်းလုပ်ကွက်သို့ လွယ်ကူစွာဝင်ရောက်သယ်ယူပို့ဆောင်နိုင်သည့် ဝင်လမ်း / ထွက်လမ်းများကို ကွင်းဆင်းစစ်ဆေးရွေးချယ်၍ဖောက်လုပ်ခြင်း၊ Mine Plan နှင့် Work Program ရေးဆွဲခြင်း၊ လိုအပ်သောစက်ယန္တရားများ၊ မော်တော်ယာဥ်များ၊ သတ္တုတွင်းသုံးပစ္စည်းများ ဝယ်ယူစုဆောင်းခြင်း၊ သတ္တုရိုင်းများစတင်တူးဖော်မည့်နေရာ၊ မြေစာစုပုံမည့်နေရာ သတ်မှတ်ဆောင်ရွက်ခြင်း၊ သတ္တုသန့်စင်စက်ရုံ(Processing Plant) တည်ဆောက်ရန် နေရာရွေးချယ်ဆောက်လုပ်ခြင်း၊ သတ္တုဆေးကြောသန့်စင်ရန်ရေရရှိရေးအတွက် စီစဥ်ဆောင်ရွက်ခြင်း၊ စွန့်ပစ်မြေစာများစုပုံရန်နေရာပြုလုပ်ခြင်း၊ စွန့်ပစ်ရေများအား စွန့်ပစ်ရန်ကန်များ စနစ်တကျခိုင်ခန့်စွာဆောက်လုပ်ခြင်းတို့ကို ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ (**မှတ်ချက်။** သတ်မှတ်ကာလအတွင်း သတ္တုတွင်းထူထောင်မှု ပြီးစီးနိုင်ခြင်းမရှိပါက ထူထောင်မှုကာလ တိုးမြှင့်သတ်မှတ်ရန်တင်ပြဆောင်ရွက်သွားမည်ဖြစ်ပါသည်။ သတ္တုတွင်းသုံးပစ္စည်းများကို Safety Equipment များကိုသာအသုံးပြုမည်ဖြစ်ပြီး မြေစာတူးဖော်ရာမှဖြစ်ပေါ်လာသော ကျင်းများကို စွန့်ပစ်မြေစာများဖြင့် စနစ်တကျ ဖြည့်တင်းဖို့ပေးကာ နှစ်ရှည်ပင်များစိုက်ပျိုးသွားမည်ဖြစ်ပါသည်။ ဒေသ၏ ရာသီဥတုအခြေအနေသည် မိုးရာသီကာလအတွင်း မိုးသည်းထန်စွာရွာသွန်းလေ့ရှိသဖြင့် ဆေးကြောပြီးမြေစာစွန့်ပစ်ကန်များ ခိုင်ခန့်စေရန် အထူးဂရုပြုဆောင်ရွက် သွားမည်ဖြစ်ပါသည်။)

(၂) **သတ္တုတူးဖော်ထုတ်လုပ်ခြင်းအတွက် လိုအပ်သောပစ္စည်းများ**

(ကက) **စက်ယန္တရားများ**

- Excavator
- Dump Truck
- Tractor
- 8″ × 6″ High Pressure Pump
- 7.5 kw Motor Trommel / Grizzly
- Vehicles
- Electrical Generator
- Back Hoe

(၁၁) သတ္တုတွင်းသုံးပစ္စည်းများ

- Jaw Crusher
- Ball Mill
- Vibrating Screen
- Shaking Table
- Magnetic Seperator

(၁၂) အဆောက်အဦးများ

- Electrical Generator အတွက် Power Station, စက်ဆီချောဆီသိုလှောင်ကန်၊ Spare Part များသိုလှောင်ရုံ၊ အုပ်ချုပ်မှုရုံးခန်း၊ မိုင်းလုပ်သားများနေထိုင်ရာ အဆောက်အဦး

(၃) သတ္တုတူးဖော်ထုတ်လုပ်ရာတွင် လိုအပ်သောအလုပ်သမားများကို ဒေသခံရွာများမှ ကျွမ်းကျင်လုပ်သားများကို အလုပ်သမားဥပဒေနှင့်အညီ ခန့်ထားမည်ဖြစ်ပြီး ကျွမ်းကျင်ပညာရှင်များကို ပြည်တွင်း/ ပြည်ပတို့မှခေါ်ယူ အသုံးပြုမည်ဖြစ်ပါသည်။ ရေသုံးစွဲမှုကို ဆန်းချီချောင်း (ဝက်သေချောင်း)မှထုတ်ယူသုံးစွဲမည်ဖြစ်ကာ၊ လျှပ်စစ်ဓာတ်အားရရှိရေးအတွက် ကိုယ်ပိုင်မီးစက်ကြီးဖြင့် စီစဥ်ဆောင်ရွက်သွားပါမည်။ ထို့ပြင် ရေရရှိမှုအပေါ်မူတည်၍ ရေအားလျှပ်စစ်သုံးစွဲနိုင်ရန် ကြိုးစားဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၄) မြေသားဖယ်ရှားမှုကိစ္စနှင့် ပတ်သက်၍ စမ်းသပ်တိုင်းတာစဥ်ရရှိထားသော အခြေအနေပေါ်မူတည်၍ အပေါ်ယံမြေလွှာများကိုတူးဖော်ကာ သတ္တုသားပါဝင်မှုအလွန်နည်းပါးသော မြေစာများကိုဆက်လက်၍ အဆင့်မြှင့်သန့်စင်ခြင်းမပြုလုပ်တော့ဘဲ ဖယ်ရှားကာသတ္တုသားပါဝင်မှုကောင်းမွန်သောမြေစာများကိုသာဆက်လက်၍ အဆင့်မြှင့်သန့်စင်မှုများ ပြုလုပ်သွားမည်ဖြစ်ပါသည်။ ထို့အတူ Underground Method ဖြင့်တူးဖော်၍ရရှိလာသော သတ္တုရိုင်းမြေစာများကိုလည်း ကျင်းပေါ်သို့တင်ပို့ပြီးနောက် အထက်ပါနည်းလမ်းအတိုင်း ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ အထူးသတိပြုရန်အချက်အနေဖြင့် Underground စနစ်ဖြင့်တူးဖော်၍ ဖြစ်ပေါ်လာသောကျင်းများကို တူးဖော်မှုပြီးစီးသည့်အချိန်တွင် မြေကျွံခြင်းမဖြစ်ပေါ်စေရန် အမြန်ဆုံးပြန်လည်ဖို့ပေးခြင်းအား ပြုလုပ်သွားမည်ဖြစ်ပါသည်။

(၅) လွန်ဖောက်စက်များကို Safety Equipment များကိုသာ အသုံးပြုပါသည်။ စမ်းသပ်တိုင်းတာမှုပြုလုပ်ခဲ့ရာတွင် အဆိုပြုလုပ်ကွက်ဧရိယာ (၄၀၃.၉၃)ဧကအား Block(၈)ခု ပိုင်းခြား၍ စုစုပေါင်း Test Pit (၆၈)ကျင်းတူးဖော်ခဲ့ပြီး သတ္တုနမူနာများကိုရယူခဲ့ပါသည်။

(၆) တည်ဆောက်ရေးပစ္စည်းများအား မူလရင်းနှီးမြှုပ်နှံမှုပြုလုပ်ထားသော ငွေများဖြင့် ပြည်တွင်း/ ပြည်ပမှ မှာယူ၍ရရှိလာသော စက်ယန္တရားများ၊ သတ္တုတွင်းသုံးပစ္စည်းများကို ကြာရှည်ခံစေရန် စနစ်တကျသုံးစွဲပါမည်။ ထို့ပြင်လိုအပ်သောအပိုပစ္စည်း(Spare Parts)များ၊ စက်သုံးဆီ၊ ချောဆီများ

ကိုလည်းကြိုတင်ဝယ်ယူ ဖြည့်တင်း၍ လိုအပ်ပါက အချိန်မီအသုံးပြုနိုင်စေရန် သိုလှောင်ရုံများတွင် စနစ်တကျထားရှိမည်ဖြစ်ပါသည်။

**(ဆ) လုပ်ငန်းစတင်ရာတွင် တူးဖော်မည့် မြေပြင်/ မြေသား တည်ဆောက်မှုနှင့်အတိုင်းအတာ၊ တူးဖော်မည့် လမ်းကြောင်းများ၊ စမ်းသပ်တိုင်းတာသောနေရာ အတိုင်းအတာနှင့် ထုံ၊ သတ္တုတူးဖော်ရေးစီမံချက်**

(၁) ဤသတ္တုတွင်းလုပ်ကွက်နှင့် ပတ်ဝန်းကျင်ဒေသတစ်ဝိုက်တွင် သက်တမ်းအားဖြင့် Lower Carboniferous to Lower Permian ? ဟုသတ်မှတ်ထားသော မြိတ်ကျောက်စဥ်စုဝင် (Mergui Series) ဖြစ်သည့် Quartz, Phyllite နှင့် Argilite ကျောက်များသည် အတွင်းသို့ တိုးဝင်မှုကြောင့် တောင်စောင်းကြေပျက်သတ္တုသိုက် ( Eluvial Deposit )အဖြစ် တောင်ကုန်း၊ တောင်စောင်းများတွင် တွေ့ရှိရပါသည်။ ထို့ပြင် ဆင်းတွင်းကြီးလုပ်ကွက်၌ ပကာရီ- ဆန်းချီ ချောင်းမျက်နှာပြင်၏အောက် ပေ(၃၆၅)ခန့်အနက်တွင် မူရင်းသတ္တုသိုက် (Primary Ore Deposit)အဖြစ်တွေ့ရှိရပါသည်။ လုပ်ကွက်၏ မြေပြင်/ မြေသား တည်ဆောက်မှုအနေဖြင့် အခံကျောက်သည်မာကြောကျစ်လစ်သိပ်သည်းသော (Hard Compact)အခြေအနေရှိသဖြင့် Underground မြေအောက်ဂူများတွင် သစ်သားထောက်တိုင်ခံရန်မလိုသည့် မြေသားများ ဖြစ်ပါသည်။ သတ္တုကြော(Vein)များ၏ တစ်ခုနှင့်တစ်ခုအကွာအဝေးမှာ ပေ(၁၀၀)ခန့်ဖြစ်ပြီး သတ္တုစွဲဝင်မှုမှာ အချို့နေရာများတွင် အရှည်ပေ(၃၀)၊ အနက်(၂၅)ပေအတွင်း သတ္တုကောင်းစွာ ရရှိနိုင်သည့်အနေအထားဖြစ်ပါသည်။ သတ္တုစွဲဝင်နေသော သလင်းကြော (Quartz Vein)များ သည် အများအားဖြင့် ပေ(၇၀ နှင့် ၈၀)ခန့်ရှည်လျားပြီး အရှေ့ဘက်သို့ စောင်းလျက်တည်ရှိ နေကာ ဆက်လက်၍တူးဖော်သွားပါက သလင်းကြောအသစ်(New Quartz Vein)များ ထပ်မံ တွေ့ရှိနိုင်ကာ သတ္တုများပိုမိုတည်ရှိနိုင်ပါသည်။ စမ်းသပ်တိုင်းတာမှုကို လုပ်ကွက်ဧရိယာတစ်ခု လုံးအား Block(၈)ခု ပိုင်းခြား၍ နမူနာကျင်းတစ်ခုနှင့်တစ်ခုအား ပေ(၅၀၀)အကွာအဝေးစီ ခြား၍ Block- A (၁၁)ကျင်း၊ Block- B (၁၃)ကျင်း၊ Block- C (၈)ကျင်း၊ Block- D (၆)ကျင်း၊ Block- E (၉)ကျင်း၊ Block- F(၉)ကျင်း၊ Block- G(၆)ကျင်း၊ Block- H(၆)ကျင်း စုစုပေါင်း နမူနာကျင်းပေါင်း(၆၈)ကျင်းရယူခဲ့ပါသည်။ ထို့ပြင်အချို့နေရာများတွင် မြေကျုံးစက်ဖြင့် (၈" × ၄") မြောင်းများတူးဖော်၍ နမူနာ(၄၄)ခုရယူခဲ့ပြီး၊ မြေပြန့်နေရာများတွင် နမူနာ(၂၀)ခုရယူ ခဲ့ကာ Cone and Quartering (၄)ကြိမ်ခန့်ပြုလုပ်၍ ကိုယ်စားပြုနမူနာထုတ်ယူကာ ထားဝယ်မြို့ရှိ ဓာတ်ခွဲခန်း၌ ဓာတ်ခွဲစမ်းသပ်ခဲ့ပါသည်။ ဓာတ်ခွဲစမ်းသပ်နမူနာအရ ပကာရီ- ဆင်းတွင်းကြီးလုပ်ကွက်အတွင်းရှိ ပျမ်းမျှသတ္တုပါဝင်မှုမှာ Sn- 30.22% နှင့် $WO_3$ - 38.12% ရရှိခဲ့ပါသည်။

(၂) သတ္တုတူးဖော်ရေးစီမံချက်နှင့် ပတ်သက်၍ ခွင့်ပြုသက်တမ်းကာလ ပထမနှစ်အတွင်း သတ္တုတွင်းထူထောင်မှုပြုလုပ်မည်ဖြစ်ပြီး ထူထောင်မှုကာလပြီးစီး၍ တူးဖော်မှုကာလမှစတင်ကာ

တစ်နှစ်လျှင် သတ္တုသားပါဝင်မှု အနည်းဆုံး(၆၅%)ပါဝင်သော သတ္တုသန့်စင်အနည်းဆုံး(၅၀) မက်ထရစ်တန်ရရှိအောင် ထုတ်လုပ်သွားမည်ဖြစ်ပါသည်။

**(ဈ) ဓာတ်သတ္တုဆင့်တက်ပြုပြင်မှုလုပ်ငန်းစဥ်တွင် လေ/ ရေ နှင့် အသံညစ်ညမ်းမှုဖြစ်စေနိုင်သော စက်ရုံများကိုအထူးဖော်ပြခြင်း၊ နေ့စဥ်စွန့်ပစ်ပစ္စည်းတစ်မျိုးချင်း အလေးချိန်နှင့် စွန့်ပစ်နည်းလမ်းဖော်ပြခြင်း၊ ကုန်ကြမ်းနှင့် ကုန်ချောသယ်ယူပို့ဆောင်ရောင်းချပုံ**

(၁) လုပ်ကွက်၌ ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုရိုင်းများအား သတ္တုသားပါဝင်မှု (၆၅%)နှင့်အထက်ရှိသော အဆင့်မြင့်သတ္တုသန့်စင်(High Grade Concentrate)များအဖြစ်သာ ထုတ်လုပ်ရန်ဖြစ်ပြီး ကျိုချက်သန့်စင်ခြင်းပြုလုပ်ရန်မဟုတ်သဖြင့် လေထုညစ်ညမ်းမှုမရှိနိုင်ပါ။ စွန့်ပစ်မြေစာများ၊ ကျောက်စရစ်ခဲများကို သတ်မှတ်နေရာများသို့သယ်ယူရာတွင် လမ်းတစ်လျှောက်ဖြစ်ပေါ်လာသောဖုန်မှုန့်များသာရှိပါသည်။ ၎င်းဖုန်မှုန့်များကို ရေ Bowser များဖြင့် လမ်းတစ်လျှောက်ရေဖြန်းပေးမည်ဖြစ်ပါသည်။ သတ္တုရိုင်းများဆေးကြောသည့်အခါတွင် ရေပန်းထိုး၍ဆေးကြောခြင်းဖြစ်သဖြင့် ၎င်းမှထွက်ရှိလာသော မှုန်ရောရည်များကိုသာ Tailing Pond ထဲသို့စီးဝင်စေရန်ဆောင်ရွက်မည်ဖြစ်သဖြင့် ရေထုညစ်ညမ်းမှုမရှိနိုင်ပါ။ ထို့ပြင် သတ္တုတွင်းလုပ်ငန်းသုံးစက်ပစ္စည်းများဖြစ်သော Back Hoe၊ Dump Truck၊ Excavator များနှင့် သတ္တုအဆင့်မြင့်သန့်စင်စက်ရုံ(Processing Plant)၊ Shaking Table တို့မှထွက်ပေါ်လာသော အသံများမှာ ပတ်ဝန်းကျင်ကို ထိခိုက်စေနိုင်သောဆူညံမှုများမရှိနိုင်ပါ။ သတ္တုရိုင်းများဆေးကြောပြီးသောမြေစာများကိုစွန့်ပစ်ရာတွင်တူးဖော်ရရှိလာသော သတ္တုရိုင်းမြေစာများမှ သတ္တုသားပါဝင်မှုလွန်စွာနည်းပါးသော Over Burden များနှင့် ဆေးကြောပြီးစွန့်ပစ်ရန်ဖြစ်သော Tailing များ၊ ကျောက်စရစ်ခဲများကိုသာ Tailing Pond ထဲသို့စနစ်တကျစွန့်ပစ်မည်ဖြစ်သဖြင့် အလေးချိန်အားဖြင့် ခန့်မှန်း၍မရနိုင်ပါ။

(၂) လုပ်ကွက်မှ တူးဖော်ထုတ်လုပ်အဆင့်မြှင့်သန့်စင်၍ ရရှိလာသော အဆင့်မြင့်သတ္တုသန့်စင်များသည် ကုန်ကြမ်းအဆင့်သာဖြစ်ပါသည်။ သို့ရာတွင် ရောင်းတန်းဝင်သောအဆင့်မြင့် ကုန်ကြမ်းဖြစ်သဖြင့် ထားဝယ်မြို့ရှိ အမှတ်(၂)သတ္တုတွင်းလုပ်ငန်း၊ အထွေထွေမန်နေဂျာရုံးသို့ သယ်ပို့၍ နှစ်ဖက်သဘောတူစာချုပ်ပါအချိုးအတိုင်း ကုမ္ပဏီနှင့် ဌာနတို့ ခွဲဝေပြီးနောက်ရရှိလာသော ကုမ္ပဏီပိုင်သတ္တုသန့်စင်များကို ပြည်တွင်း/ ပြည်ပသို့ သတ်မှတ်လုပ်ထုံးလုပ်နည်းနှင့် အညီ ရောင်းချသွားမည် ဖြစ်ပါသည်။

**(ည) ရေလမ်းကြောင်းလွှဲပြောင်းခြင်းနှင့် အသုံးပြုခြင်းဆိုင်ရာများ၊ ရေရှည်တည်တံ့စေရန်အတွက် အစီအမံများ**

သတ္တုတူးဖော်ထုတ်လုပ်မှုအတွက် ရေသုံးစွဲရာတွင် ရေလမ်းကြောင်းလွှဲပြောင်းခြင်း မဖြစ်နိုင်ပါ။ ထို့ပြင် သတ္တုဆေးကြောသန့်စင်ရန်အတွက် လိုအပ်သောရေကို ချောင်းရေမှတစ်ဆင့် ပိုက်လိုင်းဖြင့်သွယ်တန်း၍ ရယူသုံးစွဲသွားမည်ဖြစ်သဖြင့် ရေလမ်းကြောင်းလွှဲပြောင်းအသုံးပြုရန်မလိုအပ်ပါ။ သို့ဖြစ်၍ ရေရှည်တည်တံ့မှုရှိနေမည်သာဖြစ်ပါသည်။

## ၄။ ပတ်ဝန်းကျင်အပေါ် အကျိုးသက်ရောက်မှုအကဲဖြတ်ဆန်းစစ်ချက်

**(က) သတ္တုသိုက်လမ်းကြောင်း တိမ်ကောပျောက်ကွယ်မှုအလားအလာ**

စမ်းသပ်တိုင်းတာမှုပြုလုပ်ရာတွင် (Primary Deposit) များကို Underground Level(၃)ခုဖြင့် ဖောက်ယူ၍ သတ္တုကြောများနှင့် ဆန့်ကျင်ဘက်လားရာအတိုင်း Cross- Cut ဖြင့် ရှာဖွေတွက်ချက်ခဲ့ရာ ပထမအဆင့်သတ္တုကြောနှင့် ဒုတိယအဆင့်သတ္တုကြောများကို Level တစ်ခုနှင့်တစ်ခု ဆက်စပ်သည်အထိသာ တူးဖော်ဖောက်ယူနိုင်ခဲ့ပါသည်။ သို့ဖြစ်၍ ဓေတ်မီ စက်ကိရိယာများ အသုံးပြု၍လည်းကောင်း၊ ဓေတ်မီနည်းပညာများဖြင့်သော်လည်းကောင်း ဆက်လက်၍ စမ်းသပ်ရှာဖွေနိုင်မည်ဆိုပါက သတ္တုကြောများထပ်မံထုတ်လုပ်နိုင်သည့် အခြေအနေရှိပါသည်။ ထို့ပြင် သတ္တုပါဝင်စွဲကပ်နေသော သလင်းကြော (Quartz Vein)များကို ဆင်းတွင်းကြီးလုပ်ကွက်နေရာ၏ အဝမှ တောင်ဘက်မှ မြောက်ဘက်သို့ အရှည်ပေ(၁၀၀၀)ခန့်သာ စမ်းသပ်နိုင်ခဲ့ရာ ၎င်းသလင်းကြောများကို ထပ်မံ၍စမ်းသပ်တိုင်းတာပါက သတ္တုများ ထပ်မံထုတ်လုပ်နိုင်သည့် အခြေအနေရှိပါသည်။

**(ခ) စွန့်ပစ်ပစ္စည်းများကြာမြင့်စွာထားရှိမှုကြောင့် မြေမျက်နှာပြင်ပြောင်းလဲသွားနိုင်ခြင်း**

ဓာတုဗေဒဆေးများအသုံးမပြုခြင်းကြောင့်လည်းကောင်း၊ စွန့်ပစ်ပစ္စည်းထဲတွင် အဆိပ်အတောက်ဖြစ်စေသော Element များပါဝင်မှုမရှိခြင်းကြောင့်လည်းကောင်း၊ စွန့်ပစ်ပစ္စည်းများကို စွန့်ပစ်ကန်အတွင်း စနစ်တကျစွန့်ပစ်ရန် စီစဥ်ထားရှိမှုတို့ကြောင့်လည်းကောင်း မြေမျက်နှာပြင်ပြောင်းလဲမှုမရှိနိုင်ပါ။ ထို့ပြင် သတ္တုရိုင်းမြေစာများ တူးဖော်ခြင်းကြောင့်ဖြစ်ပေါ်လာသောကျင်းများကို ပြန်လည်ဖို့ပေးပြီး မြေဆီလွှာသစ်ဖြစ်ပေါ်လာစေရန် သစ်ပင်များ ပြန်လည်စိုက်ပျိုးခြင်းဖြင့် ထိန်းသိမ်းစောင့်ရှောက်သွားမည် ဖြစ်သဖြင့် မြေမျက်နှာပြင် ထိခိုက်မှုမရှိနိုင်ပါ။

**(ဂ) မူလအခြေအနေများပြောင်းလဲစေသည့် သက်ရောက်မှုများ**

သတ္တုရိုင်းမြေစာများကို တူးဖော်ထုတ်လုပ်ခြင်းဖြစ်သဖြင့် မူလမြေကြီးအခြေအနေများမှာ သတ္တုတူးဖော်ထုတ်လုပ်သည့်သဘာဝအရပြောင်းလဲမှုရှိသော်လည်း စွန့်ပစ်မြေစာများနှင့် ပြန်လည်အစားထိုး၍ သစ်ပင်များ စိုက်ပျိုးခြင်းတို့ကိုဆောင်ရွက်မည်ဖြစ်သဖြင့် အကျိုးမဲ့သောသက်ရောက်မှုမရှိနိုင်ပါ။

**(ဃ) ဇီဝမျိုးစိတ်များအခြေအနေ**

ထူးခြားပြောင်းလဲမှုမရှိနိုင်ပါ။

**(င) မြေပေါ်၊ မြေအောက် ရေ၊ လေထုနှင့် အသံဆိုင်ရာပြောင်းလဲမှုများ၊ ရှေးဟောင်းယဥ်ကျေးမှုနှင့် လူမှုစီးပွားရေးအပေါ်ရိုက်ခတ်မှု**

ရှေးဟောင်းယဥ်ကျေးမှုဆိုင်ရာ အဆောက်အဦများသော်လည်းကောင်း၊ ရှေးဟောင်းယဥ်ကျေးမှုနှင့်ပတ်သက်သော အခြားကိစ္စရပ်များသော်လည်းကောင်းမရှိပါ။ ရေထု၊ လေထုနှင့် အသံဆိုင်ရာပြောင်းလဲမှုများမရှိနိုင်ပါ။ လုပ်ကွက်၏ပတ်ဝန်းကျင်ထိခိုက်ညစ်ညမ်းမှုမရှိစေရန် စနစ်တကျဆောင်ရွက်မည်ဖြစ်သဖြင့် လူမှုစီးပွားရေးအနေဖြင့် ဒေသခံများမှာ ယခင်ထက်ပိုမို၍ လူမှုစီးပွားရေးအခွင့်အလမ်းများပိုမိုရရှိလာနိုင်ပြီး မကောင်းသောရိုက်ခတ်မှုများမရှိနိုင်ပါ။

(စ) **လုပ်ငန်းပိတ်သိမ်းချိန်**

သတ္တုရိုင်းမြေစာများတူးဖော်၍ ဖြစ်ပေါ်လာသော ကျင်းများ၊ ချိုင့်များကို တူးဖော်နေစဉ်ကာလအတွင်းမှာပင် လုပ်ကွက်ငယ်တစ်ခုချင်းအလိုက် တူးဖော်မှုပြီးဆုံးပါက အမြန်ဆုံးစနစ်တကျပြန်လည်မြေဖို့၍ သစ်ပင်များစိုက်ပျိုးသွားမည်ဖြစ်ပါသည်။

(ဆ) **သတ္တုတွင်းပိတ်သိမ်းချိန်**

(၁) **အက်ဆစ်ဖြစ်ပေါ်နိုင်ချေရှိသောနေရာများ**

သတ္တုရိုင်းမြေစာများတူးဖော်၍ အဆင့်မြင့် ဆေးကြောသန့်စင်ခြင်းကိုသာ ပြုလုပ်ပြီး ဓာတုဗေဒဆေးများသုံးစွဲမှုမရှိသဖြင့် အက်ဆစ်များဖြစ်ပေါ်မှုမရှိနိုင်ပါ။

(၂) **မြေ၊ ရေ တို့အားရေရှည်သက်ရောက်မှု**

သဘာဝအလျောက်ဖြစ်ပေါ် စီးဆင်းနေသောချောင်းများတွင် သတ္တုဆေးကြောခြင်းမပြုလုပ်ဘဲ ချောင်းရေကိုရယူသုံးစွဲခြင်း၊ စွန့်ပစ်မြေစာများဖြင့် ပြန်လည်ဖြည့်တင်း၍ ဖို့ပေးခြင်း၊ သတ္တုဆေးကြောပြီး စွန့်ပစ်ရေများကို ရေကြည်ပြုလုပ်၍ ပြန်လည်သုံးစွဲခြင်းတို့ကြောင့် မြေ၊ ရေ တို့အား ဆုတ်ယုတ်စေမည့်သက်ရောက်မှုမရှိနိုင်ပါ။

(၃) **ရေရှည်ပြုပြင်ထိန်းသိမ်းနိုင်မှုများ**

သတ္တုရိုင်းမြေစာများ တူးဖော်ပြီးလုပ်ကွက်နေရာများတွင် စွန့်ပစ်မြေစာများဖြင့် ပြန်လည်ဖြည့်တင်းပေးခြင်း၊ ဖြည့်တင်းပြီးနေရာများကို သစ်ပင်များ ထပ်မံစိုက်ပျိုးခြင်းဖြင့် သဘာဝပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှုမရှိစေရန် ရေရှည်ပြုပြင်ထိန်းသိမ်းသွားမည်ဖြစ်ပါသည်။ သတ္တုများကုန်ခမ်းသွားပြီးနောက်တွင်လည်း ရာဘာကဲ့သို့သောနှစ်ရှည်ပင်များကို စီးပွားဖြစ်စိုက်ပျိုးနိုင်ရေးအတွက် တိုင်းဒေသကြီးအစိုးရအဖွဲ့သို့ တင်ပြလျှောက်ထားရန် စီစဉ်မည်ဖြစ်သဖြင့် ရေရှည်ပြုပြင်ထိန်းသိမ်းနိုင်မည်ဖြစ်ပါသည်။

၅။ **သဘာဝပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုအစီအစဉ်**

(က) **တည်ဆောက်ရေးကာလ**

သတ္တုတူးဖော်ထုတ်လုပ်ခွင့်ရရှိသောအခါ သတ်မှတ်ပြဋ္ဌာန်းထားသော သတ္တုတွင်းဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လုပ်ကွက်သို့ကွင်းဆင်းစစ်ဆေးတိုင်းတာမှုများ၊ သတ္တုတွင်းထူထောင်မှုများကို စနစ်တကျစီမံဆောင်ရွက်တည်ဆောက်သွားမည်ဖြစ်ပါသည်။

(ခ) **လုပ်ငန်းကာလ**

လက်ရှိ သတ်မှတ်ပြဋ္ဌာန်းထားသော လုပ်ထုံးလုပ်နည်းများအရ ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုအကြီးစားထုတ်လုပ်မှုကို မူလသက်တမ်း(၁၀)နှစ်ကာလ သတ်မှတ်ထားရှိသဖြင့် ၎င်းကာလအတွင်း နှစ်စဉ်ထုတ်လုပ်မှု လျာထားချက်တန်ချိန်ကို ပြည့်မီကျော်လွန်အောင် တူးဖော်ထုတ်လုပ်သွားမည်ဖြစ်ပြီး သတ္တုရိုင်းမြေစာများတူးဖော်ရာတွင်လည်းကောင်း၊ အဆင့်မြင့်တင်ဆေးကြော

သန့်စင်မှုပြုလုပ်ရာတွင်လည်းကောင်း၊ သဘာဝပတ်ဝန်းကျင် ထိခိုက်ညစ်ညမ်းမှုမရှိစေရန်နှင့် လူမှုစီးပွားထိခိုက်မှုမရှိစေရန် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(ဂ) **မိုင်းပိတ်သိမ်းချိန်**

သတ္တုတွင်းလုပ်ကွက် ပိတ်သိမ်းသည့်အခါ သတ်မှတ်ပြဋ္ဌာန်းထားသော ဥပဒေ လုပ်ထုံးလုပ်နည်းများပါအချက်အလက်များအတိုင်း လုပ်ကွက်အပ်နှံရန်ဆောင်ရွက်သွားမည်ဖြစ်ပြီး၊ တူးဖော်ထားသော လုပ်ကွက်ငယ်များအားလုံးအတွက် မြေစာများပြန်လည်ဖို့ပေးခြင်း၊ သစ်ပင်စိုက်ပျိုးခြင်းများကို ပြီးစီးအောင်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(ဃ) **ဘဏ္ဍာရေး**

နှစ်စဉ်ရံပုံငွေ ကျပ်သိန်း(၁၅၀)ကို သီးခြားရံပုံငွေထားရှိဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(င) **သုံးသပ်တင်ပြချက်**

ဤသတ္တုတွင်းလုပ်ကွက်မှ နှစ်စဉ်သတ္တုသားပါဝင်မှု (၆၅%)နှင့်အထက်ပါဝင်သော ခဲမဖြူ အဖြိုက်နက်နှင့် ရောရာသတ္တုတန်ချိန် အနည်းဆုံး(၅၀)မက်ထရစ်တန် ထုတ်လုပ်နိုင်ခြင်းအားဖြင့် နိုင်ငံတော်၏ နှစ်စဉ်ခဲမဖြူ အဖြိုက်နက်နှင့် ရောရာသတ္တု ထုတ်လုပ်မှုလျာထားချက် ပိုမိုလာနိုင်စေမည်ဖြစ်ပြီး နိုင်ငံတော်အတွက် ပြည်ပဝင်ငွေအထိုက်အလျောက် တိုးတက်လာစေနိုင်မည်ဖြစ်ပါသည်။ ဒေသခံများ အနေဖြင့် အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုဖန်တီးရရှိစေနိုင်မည်ဖြစ်ပြီး လမ်းပန်းဆက်သွယ်ရေး၊ လူမှုစီးပွားရေး၊ ပညာရေး၊ကျန်းမာရေးကိစ္စရပ်များကို ပိုမိုတိုးတက်လာစေနိုင်မည်ဖြစ်ပါသည်။

## လူမှုပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ချက် အစီရင်ခံစာ

## (SOCIAL IMPACT ASSESSMENT)

## တင်ပြချက်များ



သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်

(MINING WORLD Co., Ltd)

# လူမှုပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ချက်အစီရင်ခံစာ

# (SOCIAL IMPACT ASSESSMENT)

**နိဒါန်း**

၁။ သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက် (Mining World Co., Ltd)သည် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာအုပ်စုအတွင်းရှိ ပကာရီ- ဆင်းတွင်းကြီး၌ လုပ်ကွက်ဧရိယာ(၄၉) ဧကစီရှိသော လုပ်ကွက်(၃)ကွက်တွင် ခဲမဖြူ၊ အဖြိုက်နက်ရောရာသတ္တုအသေးစား တူးဖော်ထုတ်လုပ်ခွင့်ပြုမိန့်ရရှိခဲ့ပါသည်။ ကုမ္ပဏီအနေဖြင့် အငဲသေးစားတူးဖော်ထုတ်လုပ်နေစဉ်ကာလအတွင်း လုပ်ကွက်ပတ်ဝန်းကျင်မြေအနေအထားပေါ်မူတည်၍ စမ်းသပ်တိုင်းတာမှုများပြုလုပ်ခဲ့ရာတွင် စီးပွားဖြစ်ထုတ်လုပ်နိုင်သော သတ္တုသိုက်အခြေအနေကို တိုင်းတာရရှိခဲ့သဖြင့် လက်ရှိအသေးစားလုပ်ကွက်(၃)ကွက်အပါအဝင် ဧရိယာ(၄၀၃.၉၃)ဧက၌ ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုအကြီးစားတူးဖော်ထုတ်လုပ်မှုကို လျှောက်ထားခဲ့ရာတွင်တင်ပြရန်လိုအပ်သော လူမှုပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ချက်အစီရင်ခံစာကို တင်ပြရခြင်းဖြစ်ပါသည်။

၂။ **လူမှုပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ချက်ပြုလုပ်သည့် လုပ်ငန်းစီစဉ်ဆောင်ရွက်မှု**

(က) **လုပ်ကွက်၏ဒေသအခြေအနေ**

တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာအုပ်စုအတွင်းရှိ ပကာရီ-ဆင်းတွင်းကြီး လုပ်ကွက်ဧရိယာ(၄၀၃.၉၃)ဧကဖြစ်ပါသည်။ လုပ်ကွက်သည် ထားဝယ်မြို့မှ အရှေ့ဘက် (၁၁.၅)မိုင်အကွာတွင်တည်ရှိပြီး အနီးဆုံးကျေးရွာမှာ လုပ်ကွက်မှ(၁.၅)မိုင်ခန့်ဝေးကွာသော ပကာရီကျေးရွာဖြစ်ကာ လုပ်ကွက်၏အနောက်မြောက်ဘက်တွင် တည်ရှိပါသည်။ လုပ်ကွက်၏အရှေ့ဘက်(၂)မိုင်ခန့်အကွာတွင်ဓားသွေးကျောက်ရွာရှိပြီး အနောက်ဘက်တွင် ဆန်းချိ(၂)ရွာတည်ရှိပါသည်။ လုပ်ကွက်သည် တောင်ကြောများအကြားတွင် တည်ရှိပြီးလုပ်ကွက်၏ တောင်ဘက်တွင်မူ ရွာမရှိပါ။

(ခ) **ဒေသခံများ၏ပူးပေါင်းပါဝင်ဆောင်ရွက်မှု**

ဤသတ္တုတွင်းလုပ်ကွက် အသေးစားတူးဖော်ထုတ်လုပ်မှု ခွင့်ပြုချက်ရရှိပါက ဒေသခံများအနေဖြင့် ယခင်ကထက် အလုပ်အကိုင်အခွင့်အလမ်း ဖန်တီးနိုင်မှု၊ ဒေသအတွင်းပညာရေး၊ ကျန်းမာရေး၊ လမ်းပန်းဆက်သွယ်ရေးပိုမိုကောင်းမွန်လာမှု၊ လူမှုစီးပွားတိုးတက်လာမှုတို့ ပိုမိုရရှိနိုင်မည်ဖြစ်သဖြင့် ကျေးရွာအုပ်ချုပ်ရေးမှူးနှင့် ဒေသခံရွာသူ၊ ရွာသားများမှ လုပ်ကွက်လျှောက်ထားခြင်းအပေါ် ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက်ပေးပို့တင်ပြထားပြီးဖြစ်ပါသည်။

(ဂ) **ကနဦးလူမှုပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ချက်အားဆောင်ရွက်မည့်အစီအစဉ်များ**

ပကာရီ- ဆင်းတွင်းကြီးသတ္တုတွင်းလုပ်ကွက်မှ သတ္တုများတူးဖော်ထုတ်လုပ်နိုင်မှုကြောင့် ဒေသခံများအနေဖြင့် အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိစေနိုင်သည့်အပြင် လူမှုစီးပွားထိခိုက်မှုမရှိနိုင်ခြင်း၊ လမ်းပန်းဆက်သွယ်မှုပိုမိုကောင်းမွန်လာနိုင်စေခြင်း၊ ကုမ္ပဏီမှ ဒေသအကျိုးစီးပွားအတွက် တတ်အားသရွေ့ အလှူငွေများထည့်ဝင်ကူညီပေးရန် စီစဉ်ထားရှိပါသည်။

လက်ရှိတွင်လည်း အသေးစားလုပ်ကွက်(၃)ကွက်၌ တူးဖော်ထုတ်လုပ်ခွင့်ရကာလတွင် ကုမ္ပဏီအနေဖြင့် ဒေသလူမှုစီးပွားဖွံ့ဖြိုးတိုးတက်ရေးအတွက် အောက်ပါအတိုင်းထည့်ဝင်ကူညီခဲ့ပြီးဖြစ်ပါသည် -

(၁) ယက္ကန်းစင်ရွာဘုန်းကြီးကျောင်း မြေတူးမြေညှိရန် စက်ကြီးများကူညီပေးခြင်း - ၁,၃၀၀,၀၀၀ိ/-

(၂) ပကာရီရွာလယ်ဘုန်းကြီးကျောင်းမြေတူးမြေညှိရန် စက်ကြီးများကူညီပေးခြင်း - ၁,၃၀၀,၀၀၀ိ/-

(၃) ပကာရီရွာလယ်ဘုန်းကြီးကျောင်းအတွက် အလှူငွေပေးအပ်ခြင်း - ၁၀၀,၀၀၀ိ/-

(၄) ပကာရီရွာ အဝင်ဆိုင်းဘုတ်ပြုလုပ်ပေးခြင်း - ၁,၀၀၀,၀၀၀ိ/-

(၅) ဆင်းတွင်းကြီးဘုန်းကြီးကျောင်း ဆန် နှင့် ဓနိအတွက် အလှူငွေ - ၁၅၀,၀၀၀ိ/-

(၆) ပကာရီရွာစာသင်ကျောင်းအတွက်မြေတူးမြေညှိရန်စက်ကြီးများကူညီခြင်း - ၈၀၀,၀၀၀ိ/-

(၇) ဆန်းချို(၂)ရွာစာသင်ကျောင်းအတွက်မြေတူးမြေညှိရန်စက်ကြီးများကူညီခြင်း - ၅၀၀,၀၀၀ိ/-

(၈) ပကာရီရွာစာသင်ကျောင်းအတွက်ဘိလပ်မြေလှူခြင်းနှင့်ကွန်ကရစ်ခင်းပေးခြင်း - ၃၅၀,၀၀၀ိ/-

(၉) ပကာရီရွာစာသင်ကျောင်းအတွက်(၁၀)တန်းဘာသာစုံအထူးထုတ်စာအုပ်များလှူဒါန်းခြင်း- ၂၅၀,၀၀၀ိ/-

(၁၀)ပကာရီရွာကျောင်းသုံးရေကန်ဆောက်လုပ်ခြင်းနှင့် အမိုးအကာပြုလုပ်ပေးခြင်း - ၈၀၀,၀၀၀ိ/-

(၁၁)ပကာရီကျောင်းအတွက်စာသင်စားပွဲနှင့် ခုံ(၆)စုံ လှူဒါန်းခြင်း - ၂၀၀,၀၀၀ိ/-

(၁၂)ဆန်းချို(၂)ရွာစာသင်ကျောင်းအတွက်ဘိလပ်မြေ(၂၀)အိတ်နှင့်သုတ်ဆေးပုံးများလှူဒါန်းခြင်း- ၂၅၀,၀၀၀ိ/-

(၁၃)ပကာရီကျေးလက်ကျန်းမာရေးဆေးပေးခန်းအတွက်လူနာကုတင်(၁)စုံလှူဒါန်းခြင်း- ၃၀,၀၀၀ိ/-

(၁၄)ပကာရီကျေးရွာလမ်းခင်းရန် ကျောက်ကား(၁၀)စီးလှူဒါန်းခြင်း - ၆၀၀,၀၀၀ိ/-

(၁၅)ပကာရီကျောင်းသား၊ ကျောင်းသူများအတွက်ထောက်ပံ့ငွေ - ၂,၀၀၀,၀၀၀ိ/-

(၁၆)ရေဝိုင်းဘုန်းကြီးကျောင်းအတွက်အလှူငွေ - ၃၀၀,၀၀၀ိ/-

(၁၇)မြန်မာ့လက်ရွေးစင်မသန်စွမ်းအားကစားသမားများ 7th Asean Para Games - ၁၀၀,၀၀၀ိ/-
အောင်နိုင်ရေးအလှူငွေပေးအပ်ခြင်း

---

**စုစုပေါင်းလှူဒါန်းပြီးငွေ (၉၉.၃)သိန်းကျပ်တိတိဖြစ်ပါသည်။**

ကုမ္ပဏီအနေဖြင့် ဆက်လက်၍ ဒေသခံများ၏ လူမှုစီးပွားတိုးတက်ရေး၊ ကျန်းမာရေး၊ ပညာရေး၊ လမ်းပန်းဆက်သွယ်ရေးတို့အတွက် တတ်အားသရွေ့ကူညီထောက်ပံ့ပေးသွားမည်ဖြစ်ပြီး အရေးပေါ်ဆေးကုသရန် လူနာများအတွက်မော်တော်ယာဥ်ဖြင့် ပို့ဆောင်ကူညီပေးလျှက်ရှိပါသည်။

၃။ **လူမှုပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ချက်အစီရင်ခံစာတွင် ထည့်သွင်းဖော်ပြရမည့်အချက်များ**

(က) **စီမံကိန်းအမည်** - သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်မှ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာအုပ်စု၊ ပကာရီ-ဆင်းတွင်းကြီး၊ ခဲမဖြူအဖြိုက်နက်ရောရာသတ္တုတူးဖော်ထုတ်လုပ်သည့် လုပ်ကွက်ဧရိယာ (၄၀၃.၉၃)ဧကဖြစ်ပါသည်။

(ခ) **စီမံကိန်းအပေါ် လူမှုပတ်ဝန်းကျင်ထိခိုက်မှုဆိုင်ရာ စိစစ်တွေ့ရှိချက်**

စီမံကိန်းအပေါ် လူမှုပတ်ဝန်းကျင်ထိခိုက်မှုမရှိနိုင်သဖြင့် ဒေသခံများ အနေဖြင့်လည်းကောင်း၊

သက်ဆိုင်ရာမြို့နယ်အတွင်းရှိ အစိုးရဌာနများမှလည်းကောင်း၊ တိုင်းဒေသကြီးအစိုးရအဖွဲ့မှလည်းကောင်း ကုမ္ပဏီ၏ ခဲမဖြူ အဖြိုက်နက်နှင့် ရောရာသတ္တုတူးဖော်ထုတ်လုပ်ခွင့်တင်ပြမှုအပေါ် ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက်ပေးပို့ထားပြီးဖြစ်ပါသည်။

(ဂ) **စီမံကိန်းအပေါ် လူမှုပတ်ဝန်းကျင်ထိခိုက်မှုဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ အမိန့်၊ ကြေငြာစာနှင့် စာချုပ်ပါ အချက်များနှင့် နိုင်ငံတကာသဘောတူညီမှုအချက်များ**

လုပ်ကွက်၏ ထုတ်လုပ်မှုကို အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် နိုင်ငံတော်မှချမှတ် ပြဌာန်းထားသော ဥပဒေ၊ နည်းဥပဒေ၊ အမိန့်ကြော်ငြာစာ၊ သတ္တုတွင်းဝန်ကြီးဌာနမှပြဌာန်းထားသော သတ်မှတ်လုပ်ထုံးလုပ်နည်းများနှင့်အညီ လူမှုပတ်ဝန်းကျင် ထိခိုက်မှုမရှိစေရေးအတွက် တိကျစွာလိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(ဃ) **စီမံကိန်းဆိုင်ရာနှင့် ဘူမိဗေဒဆိုင်ရာအချက်များ (လူမှုပတ်ဝန်းကျင်အခြေအနေများ)**

ပကာရီ- ဆင်းတွင်းကြီးဒေသတစ်ဝိုက်တွင် ဘူမိကျောက်လွှာများအား အောက်ပါအတိုင်း(၄)မျိုးတွေ့ရှိရပါသည် -

(၁) တတိယအဆင့် သက်နုကျောက်လွှာ (Tertiary Sediments)

(၂) ဝကုန်းသက်ရင့်အပေါ်ပိုင်းကျောက်လွှာများ (Wagon Formation)

(၃) ပကာရီသက်ရင့်အပေါ်ပိုင်း ကျောက်လွှာများ (Pagaye Formation)

(၄) သက်လတ်ကာလ တိုးဝင်မီးသင့်ကျောက်လွှာများ (Pya Taung Batholit)

ပကာရီ- ဆင်းတွင်းကြီးဒေသသည် မြိတ်ကျောက်စဥ်စုဝင် (Mergui Series)ဖြစ်သည့် Quartz, Phylite, Argilite စသည့်ကျောက်များအတွင်းသို့ တိုးဝင်မှုကြောင့် သတ္တုသိုက်များဖြစ်ပေါ်လာခြင်းဖြစ်ပါသည်။ မြိတ်ကျောက်စဥ်စုကို Formation (၄)ခုခွဲခြားသတ်မှတ်ထားရာ သက်တမ်းအားဖြင့်မူ Lower Carboniferous to Lower Permian ? ဟုသတ်မှတ်ထားပါသည်။ လုပ်ကွက်၏ Ore Deposit အနေဖြင့် ပင်ရင်းသတ္တုသိုက်(Primary Ore Deposit)နှင့် ၎င်းပင်ရင်းသတ္တုသိုက်မှ တောင်စောင်းများတလျှောက် ကြေပျက်ကာစီးဆင်း စုပုံအနည်ကျ၍ဖြစ်ပေါ်လာသော တောင်စောင်းကြေပျက်သိုက် (Eluvial Ore Deposit)များဖြစ်ပါသည်။ လုပ်ကွက်၏ ဘူမိဗေဒဆိုင်ရာအချက်အလက်များအနေဖြင့် လုပ်ကွက်အတွင်း၌ ဆန်းချီချောင်းသည် အနောက်ဘက်မှ အရှေ့တောင်ဘက်သို့စီးဆင်းလျက် ရှိပြီး ချောင်းများသည် ခက်ဖြာပုံသဏ္ဍာန်ရေစီးကြောင်းပုံစံ(Dentritic Pattern)ဖြစ်နေသည်ကို တွေ့ရှိရပါသည်။ လုပ်ကွက်၏ Contour အနေအထားအရ လုပ်ကွက်တည်နေရာအတွင်းရှိ တောင်ကုန်းများသည် မနိမ့်မမြင့်သော အနေအထားတွင်ရှိပါသည်။ လုပ်ကွက်၏ အလယ်ဗဟိုတွင် တောင်ကုန်းတစ်ခုနှင့် အရှေ့တောင်ဘက်တွင် ပေ(၇၀၀)ကျော်မြင့်သောတောင်ကုန်းတစ်ခုရှိပါသည်။ လုပ်ကွက်ဧရိယာ၏ မြောက်ဘက်ခြမ်းရှိတောင်ကုန်းများသည် တောင်ဘက်ခြမ်းရှိတောင်ကုန်းများထက်မြင့်မားပြီး တောင်ထူထပ်လျက်ရှိပါသည်။ လုပ်ကွက်၏(၂/၃)ပုံအတွင်းရှိကျောက်သားများမှာ ERA အားဖြင့် Cenozoic Era တွင်ပါဝင်ပြီး Period အားဖြင့် Quaternary ဖြစ်ကာ ကျန်(၁/၃)ပုံအတွင်းရှိ ကျောက်သားများမှာ ERA အားဖြင့် Paleozoic တွင်ပါဝင်ပြီး Period အားဖြင့် Lower Carboniferous to Lower Permian ဖြစ်သည်ကိုတွေ့ရှိရပါသည်။

(င) **Methodology ဆိုင်ရာအချက်အလက်များ**

Underground Method ဖြင့်လည်းကောင်း၊ မြေပေါ်ဟင်းလင်းဖွင့် တူးဖော်နည်းဖြင့်လည်းကောင်း တူးဖော်ဆောင်ရွက်မည်ဖြစ်ပါသည်။ Underground Method ဖြင့်တူးဖော်ရာတွင် ယမ်းဖောက်ခွဲအသုံးပြုမည့်နေရာများ၌ ယမ်းသုံးစွဲရာတွင် အန္တရာယ်ကင်းရှင်းစွာ ဖောက်ခွဲနိုင်ရေးအတွက် အထူးဂရုပြုဆောင်ရွက်မည်ဖြစ်ပါသည်။ မြေပေါ်ဟင်းလင်းဖွင့်နည်းဖြင့် တူးဖော်ရရှိလာသော သတ္တုရိုင်းမြေစာများကို EME Stock Pile စနစ်ဖြင့် စုပုံဆောင်ရွက်ပြီး သတ္တုသားပါဝင်မှု(၆၅%)နှင့်အထက် အဆင့်မြင့်သတ္တုသန့်စင်များရရှိစေရန် အဆင့်ဆင့်ဆေးကြော၊ သန့်စင်၊ အဆင့်မြှင့်တင်ဆောင်ရွက်မည်ဖြစ်ပါသည်။

(စ) **ဆက်စပ်ဒေသနှင့် ဒေသလူမှုရေးအချက်အလက်များ**

တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်မြို့နယ်သည် ရှေးအစဉ်အဆက်ကတည်းကပင် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တု ပေါကြွယ်ဝသည့်ဒေသတစ်ခုဖြစ်ခဲ့ပြီး ဒေသခံများအနေဖြင့် သတ္တုတူးဖော်သည့်လုပ်ငန်းများ၊ ရာဘာခြံ၊ နှစ်ရှည်စိုက်ပျိုးသီးနှံနှင့် လယ်ယာကိုင်းကျွန်းများစိုက်ပျိုးသည့်လုပ်ငန်းများကို အဓိကထား၍ လုပ်ကိုင်စားသောက်ကြပါသည်။ လူနေမှုဖွံ့ဖြိုးတိုးတက်မှု အသင့်အတင့်ရှိသောဒေသဖြစ်ပါသည်။ ဤဒေသ၌ သတ္တုတူးဖော်ထုတ်လုပ်နိုင်မှုကြောင့် ဆက်စပ်ဒေသများဖြစ်သောကျေးရွာများ၊ မြို့နယ်များသည်လည်း လူနေမှုဘဝ ဖွံ့ဖြိုးတိုးတက်မှုရှိလာနိုင်မည်ဖြစ်ပါသည်။

(ဆ) **စီမံကိန်းတည်ဆောက်မှုကြောင့် ဒေသနှင့် လူမှုအဖွဲ့အစည်းပေါ်တွင်ဖြစ်ပေါ်လာနိုင်သည့်ကောင်းကျိုးများ**

သတ္တုတူးဖော်ထုတ်လုပ်ခွင့်ရကုမ္ပဏီမှ ဒေသ၏ လူမှုရေး၊ ကျန်းမာရေး၊ ပညာရေး၊ လမ်းပန်းဆက်သွယ်ရေး ကဏ္ဍများတွင် တတ်အားသရွေ့ ထည့်ဝင်ကူညီဆောင်ရွက်ပေးခြင်းဖြင့် ဒေသဖွံ့ဖြိုးတိုးတက်လာနိုင်၍ ဒေသခံများအနေဖြင့် အသိပညာများကြွယ်ဝတိုးတက်လာနိုင်မည်ဖြစ်ပြီး မိသားစုလူနေမှုအဆင့်အတန်းများလည်း ယခင်ကထက်တိုးတက်မြင့်မားလာနိုင်ပါသည်။

(ဇ) **ပြည်သူလူထုနှင့် ဆက်စပ်ဆောင်ရွက်မှုအခြေအနေ**

သတ္တုတွင်းလုပ်ကွက်အတွင်းရှိ လုပ်သားအချင်းချင်းသော်လည်းကောင်း၊ ပတ်ဝန်းကျင် ကျေးရွာများရှိ ဒေသခံပြည်သူလူထုများနှင့်သော်လည်းကောင်း၊ ကျေးရွာ/ မြို့နယ်များရှိ ဌာနဆိုင်ရာအဖွဲ့အစည်း အဆင့်ဆင့်များနှင့် လိုအပ်သလိုညှိနှိုင်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

**သုံးသပ်တင်ပြချက်**

၅။ သတ္တုတူးဖော်ရာတွင် ဘေးအန္တရာယ်ကင်းရှင်းရေးသည် အဓိကအချက် (Safety First)ဖြစ်ပါသည်။ သို့ဖြစ်၍ တူးဖော်ထုတ်လုပ်မှု၊ ယမ်းသုံးစွဲဖောက်ခွဲမှု၊ အဆင့်မြှင့်သန့်စင်မှု၊ သတ္တုများသယ်ပို့မှုစသည်တို့တွင် ဘေးအန္တရာယ်ကင်းရှင်းစွာဆောင်ရွက်နိုင်ရန် အထူးလိုအပ်ပါသည်။ သို့မှသာ လူတစ်ဦးချင်းအတွက်သော်လည်းကောင်း၊ ၎င်းနှင့်ဆက်စပ်လုပ်ကိုင်နေရသော အခြားသူများအတွက်သော်လည်းကောင်း၊ ကျင်လည်လှုပ်ရှားနေရသော လူမှုပတ်ဝန်းကျင်ကိုသော်လည်းကောင်း ထိခိုက်မှုရှိစေမည်မဟုတ်ပါကြောင်း သုံးသပ်တင်ပြအပ်ပါသည်။

# ပတ်ဝန်းကျင်ပြည်သူလူထု၏ ကျန်းမာရေးဆန်းစစ်ချက် အစီရင်ခံစာ

# (HEALTH IMPACT ASSESSMENT)

## တင်ပြချက်များ



သတ္တုတူးဖော်ခြင်းကမ္ဘာကုမ္ပဏီလီမိတက်

(MINING WORLD Co., Ltd)

# ပတ်ဝန်းကျင်ပြည်သူလူထု၏ ကျန်းမာရေးထိခိုက်မှုမရှိစေရေး
# (HEALTH IMPACT ASSESSMENT)

**ကျန်းမာရေးထိခိုက်မှုဆန်းစစ်ချက်**

၁။ ပကာရီ- ဆင်းတွင်းကြီး သတ္တုလုပ်ကွက်သည် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုရိုင်းများကိုတူးဖော်၍ အဆင့်မြှင့်ဆေးကြောသန့်စင်ကာ သတ္တုသားပါဝင်မှု(၆၅%)နှင့်အထက် အဆင့်မြင့်သတ္တုသန့်စင်များကိုသာ ထုတ်လုပ်ခြင်း ဖြစ်ပြီး ကြိုချက်သန့်စင်ခြင်းမဟုတ်သဖြင့် သက်ရှိသတ္တဝါများ၏ ကျန်းမာရေးကိုထိခိုက်စေနိုင်သော ဓာတ်ငွေ့များ ထွက်ပေါ်ခြင်း မရှိပါ။ ထို့ပြင်ခဲမဖြူ၊ အဖြိုက်နက်သတ္တုများနှင့်အတူ တွဲဖက်၍ရှိနေတတ်သော ခဲ၊ ကြေးနီ၊ သံ စသည့် (Associated Mineral)များမှာလည်း ရာခိုင်နှုန်းအားဖြင့် အလွန့်အလွန်နည်းပါးစွာပါဝင်သည့်ပြင် ၎င်းတို့မှာလည်း Concentrate Form အတွင်း၌သာရှိနေပြီး ကြိုချက်ခြင်းမဟုတ်သဖြင့် ကျန်းမာရေးထိခိုက်နိုင်ခြင်းမရှိပါ။ သို့ရာတွင် သတ္တုရိုင်းမြေစာများကိုတူးဖော်ပြီးနောက် အဆင့်မြှင့်ဆေးကြောသန့်စင်ခြင်းများ ပြုလုပ်ရာတွင် အသုံး မလို၍စွန့်ပစ်ရမည့် မှုန်ရောရည်များမှာမူ ပတ်ဝန်းကျင်ရှိ မြစ်၊ ချောင်းများသို့စီးဆင်းသွားပါက ညစ်ညမ်းမှု ဖြစ်ပေါ်စေတတ်ပါသည်။ သို့ဖြစ်၍ ၎င်းမှုန်ရောရည်များကို စွန့်ပစ်ကန်များစနစ်တကျပြုလုပ်၍ စီးဆင်းစေရန် စီမံဆောင်ရွက်ရပါသည်။ ထို့နောက် Tailing များအနည်ထိုင်စေပြီး အပေါ်ယံရေကြည်များကို သတ္တုဆေးကြော ရေအဖြစ် ထပ်မံသုံးစွဲနိုင်ပါသည်။ Tailing အနည်အနှစ်များမှာလည်း ဓာတ်ငွေ့များထွက်ပေါ်ခြင်းမရှိသဖြင့် ကျန်းမာရေးထိခိုက်စေနိုင်ခြင်းမရှိပါ။

၂။ သတ္တုတူးဖော်ထုတ်လုပ်ရာတွင် စက်ယန္တရားကြီးများကို အသုံးပြုရသောကြောင့်ထွက်ရှိလာသော မြေမှုန့်၊ ဖုန်မှုန့်များကြောင့်လည်းကောင်း၊ သတ္တုမြေစာများနှင့် စက်ပစ္စည်းများကိုသယ်ဆောင်ခြင်း၊ တပ်ဆင်ခြင်း၊ သတ္တုတူးဖော်ရာ တွင်ဖြစ်ပေါ်တတ်သည့် သဘာဝအန္တရာယ်များ၊ ဒေသ၏ရာသီဥတုဒဏ်တို့ကြောင့် ကျန်းမာရေးထိခိုက်မှုသာရှိနိုင်ရာ ဘေးအန္တရာယ်ကာကွယ်စေရန် လိုအပ်သောပစ္စည်းကိရိယာများ၊ ဆေးဝါးများတို့ဖြင့် ကာကွယ်သွားရန်စီစဥ်ထားပါသည်။ အထူးသဖြင့် ဤဒေသသည် မိုးများစွာရွာသွန်းတတ်သဖြင့် ထိုရာသီကာလတွင် ရေသန့်ရှင်းမှုမရှိပါက ကျန်းမာရေးကို ထိခိုက်စေနိုင်သဖြင့် အထူးသတိပြုဆောင်ရွက်စီမံရန်လိုအပ်မည်ဖြစ်ပါသည်။

၃။ အထက်ပါအချက်များအား ကြိုတင်ကာကွယ်ခြင်း၊ အန္တရာယ်ဖြစ်ပေါ်သည့်အခါ ဆောင်ရွက်ရန်အစီအစဥ်များ ရေးဆွဲချမှတ်ထားခြင်းတို့ဖြင့် အောက်ပါအတိုင်းဆောင်ရွက်သွားမည်ဖြစ်ပါသည် -

(က) သတ္တုတွင်းသုံးစက်ယန္တရားများ၊ ယာဥ်များကြောင့် အန္တရာယ်မဖြစ်ပေါ်စေရန် သတ္တုတွင်းသုံး ဦးထုပ်များ၊ နှာခေါင်းစည်းများ၊ Safety Boot များ၊ လက်အိတ်၊ ယူနီဖောင်းများ ပြည့်စုံစွာစီစဥ်ပေးမည်ဖြစ်ပြီး၊ ပစ္စည်းများကို Mine Safety Material များကိုသာ အသုံးပြုသွားရန် စီစဥ်ဆောင်ရွက်ခြင်း၊

(ခ) ကျန်းမာရေးစောင့်ရှောက်မှုများအနေဖြင့် ရာသီဥတုဒဏ်ကြောင့်ဖြစ်ပေါ်စေနိုင်သောရောဂါများ အတွက်လိုအပ်သောဆေးဝါးများ လုံလောက်စွာပံ့ပိုးပေးထားခြင်း၊ လိုအပ်ပါက ပကာရီကျေးရွာ ကျေးလက်ကျန်းမာရေး ဆေးပေးခန်းသို့လည်းကောင်း၊ ထားဝယ်မြို့နယ် ပြည်သူ့ဆေးရုံသို့လည်းကောင်း ပို့ဆောင်ကုသစေရန်စီစဥ်ပေးခြင်း၊ လိုအပ်သောကာကွယ်ဆေးများ ကြိုတင်ထိုးနှံပေးခြင်း၊ သောက်သုံးစေခြင်း

(ဂ) မြို့နယ်ကျန်းမာရေးအရာရှိများနှင့် တွေ့ဆုံညှိနှိုင်း၍ အခါအားလျော်စွာ ကျန်းမာရေးအသိပညာပေး ဟောပြောရန်စီစဉ်ခြင်း၊ သောက်သုံးရေသန့်ရှင်းမှုရှိစေရန် စီစဉ်ဆောင်ရွက်ပေးခြင်း၊

(ဃ) ရာသီဥတုဒဏ်ခံနိုင်စေရန်နှင့် စိတ်ရွှင်လန်းမှုရှိစေရန်အတွက် လုပ်ကွက်အတွင်း၌ သင့်လျော်သော အားကစားအထောက်အကူပြုပစ္စည်းများ စီစဉ်ပေး၍ အားကစားလေ့ကျင့်မှုများပြုလုပ်စေခြင်း။

၃။ ဒေသခံရွာမှ ပြည်သူလူထု(၁၅)ဦး၏ ကျန်းမာရေးထိခိုက်မှု ဆန်းစစ်ချက်အားပူးတွဲတင်ပြအပ်ပါသည်။




# ကျန်းမာရေးထိခိုက်မှုဆန်းစစ်ချက်

အမှတ်စဉ် ---------------

၁။ အမည် ။ ဦး ကျော်စွာလှိုင်

၂။ အသက် ။ ၃၈ နှစ်

၃။ အဘအမည် ။ ဦး ကြီးမွေ

၄။ နေရပ်လိပ်စာ ။ ထာဂရို ကျေးရွာအုပ်စု ဆန်းချို(၂)ကျေးရွာ

၅။ ယခုနေရပ်တွင်နေလာသည့်သက်တမ်း ။ ၃၅ နှစ်

၆။ အလုပ်အကိုင်/အသက်မွေးဝမ်းကျောင်း ။ သစ်ရှာ လုပ်ငန်း

၇။ အိမ်ထောင်စုအရေအတွက် ။ ရှိ

၈။ မိသားစုအရေအတွက် ။ (၃) ယောက်

၉။ ကလေးအရေအတွက် ။ (၁) ယောက်

၁၀။ (၅)နှစ်အောက်ကလေးအရေအတွက် ။ မရှိ

၁၁။ မိသားစုတွင်အလုပ်လုပ်ကိုင်သူအရေအတွက် ။ (၂) ယောက်

၁၂။ အိမ်အမျိုးအစား ။ နံကပ်တိုက်

၁၃။ အိမ်အကျယ်အဝန်း ။ 17' x 30'

၁၄။ အခန်းအရေအတွက် ။ (၁) ခန်း

၁၅။ မီးဖိုချောင် ။ (၁) ခန်း

၁၆။ သောက်ရေရရှိရာအရင်းအမြစ် ။ စိမ့်ချောင်းရေ

၁၇။ ရေရရှိရာနှင့်အကွာအဝေး ။

၁၈။ မိလ္လာနှင့်ရေဆိုးစနစ် ။ ယင်လုံ ကိုင်ဘာ

၁၉။ အိမ်မွေးတိရစ္ဆာန် ။ မရှိ

၂၀။ နေ့စဉ်ဈေးဝယ်မှု ။ ရွာဈေး

၂၁။ မိသားစုတွင်ဖြစ်ပွားတတ်သောရောဂါများ ။ မရှိ

၂၂။ မိသားစုတွင်ဖြစ်ပွားတတ်သောအရေအတွက် ။ –

၂၃။ ကုသမှု ။ ရပ်ရွာ ကျန်းမာရေး ဌာန

၂၄။ အိမ်အနီးအနားရှိ ။ –

၂၅။ ဆေးခန်းနှင့်အိမ်နှင့်အကွာအဝေး ။ ၁ မိုင်ခန့်

၂၆။ ကျေးရွာ/လုပ်ကွက်မှဆေးခန်းသို့ ။ ။

၂၇။ ရွာရှိစာသင်ကျောင်းအရေအတွက် ။ (၁၁) ကျောင်း

၂၈။ စာသင်ကျောင်းအမျိုးအစား ။ မူလတန်းကျောင်း

၂၉။ မိသားစုတွင်ကျောင်းနေသည့်အရေအတွက် ။ (၁၁) ယောက်

ရွာကျောင်းတွင် ။ (၁၁) ယောက်

အခြားရွာကျောင်း ။ —

၃၀။ အိမ်နှင့်ကျောင်းအကွာအဝေး ။ ၁ မိုင်ခန့်

၃၁။ မိသားစုတွင်ကျောင်းမှထွက်သည့်ဦးရေ ။ ၁ ယောက်

၃၂။ မိသားစုတွင် မူးယစ်ဆေးဝါးသုံးစွဲမှု

ဆေးလိပ် ။ မရှိပါ

အရက်/ဘီယာ ။ မသုံးပါ

အခြားမူးယစ်ဆေးဝါး ။ မသုံးပါ

၃၃။ အခြားသူများနှင့် လိင်ဆက်ဆံမှု ။ မရှိပါ

၃၄။ လိင်ဆက်ဆံရာတွင် ။ [illegible] မသုံးပါ

၃၅။ ကျေးရွာတွင် ။ —

၃၆။ ကျေးရွာတွင် ။ —

[illegible] မရှိပါ

၃၇။ ရေကြီးမှုအတွေ့အကြုံ ။

အခြားဘေးဒုက္ခအတွေ့အကြုံ ။ မရှိပါ

၃၈။ ကျေးရွာတွင် ငါးဖမ်းပစ္စည်းကိရိယာ ။ မရှိပါ

ငါးဖမ်းရာတွင် ။ —

မသုံးလျှင် ။ —

၃၉။ အခြားအလုပ်အကိုင်

ထင်း/မီးသွေးဖုတ် ။ ဥယျာဉ်ခြံ

လယ်ယာ ။ —

အမဲလိုက် ။ —

အုတ်ဖုတ် ။ —

အခြားစီးပွား ။ —

ကျေးရွာအုပ်စုအုပ်ချုပ်ရေးမှူး
ပကာရီကျေးရွာအုပ်စု
ထားဝယ်မြို့နယ်




# ကျန်းမာရေးထိခိုက်မှုဆန်းစစ်ချက်

အမှတ်စဉ် --------------

| | | |
|---|---|---|
| ၁။ | အမည် | ဦးဖိုးလေး |
| ၂။ | အသက် | (၅၈) နှစ် |
| ၃။ | အဘအမည် | ဦးဖဲဦး |
| ၄။ | နေရပ်လိပ်စာ | ပကောက်ကျေးရွာအုပ်စု အင်းဆို(ပ)ကျေးရွာ |
| ၅။ | ယခုနေရပ်တွင်နေလာသည့်သက်တမ်း | (၅၀) နှစ် |
| ၆။ | အလုပ်အကိုင်/အသက်မွေးဝမ်းကျောင်း | သစ်ကျူရောင်းခြင်း |
| ၇။ | အိမ်ထောင်စုအရေအတွက် | ရှိ |
| ၈။ | မိသားစုအရေအတွက် | (၄) ယောက် |
| ၉။ | ကလေးအရေအတွက် | မရှိ |
| ၁၀။ | (၅)နှစ်အောက်ကလေးအရေအတွက် | မရှိ |
| ၁၁။ | မိသားစုတွင်အလုပ်လုပ်ကိုင်သူအရေအတွက် | (၃) ယောက် |
| ၁၂။ | အိမ်အမျိုးအစား | ဓနိမိုးယပ်ခံ ပျဉ်ခင်း ရိုးရိုး |
| ၁၃။ | အိမ်အကျယ်အဝန်း | 15' x 30' |
| ၁၄။ | အခန်းအရေအတွက် | (၂) ခန်း |
| ၁၅။ | မီးဖိုချောင် | (၁) ခန်း |
| ၁၆။ | သောက်ရေရရှိရာအရင်းအမြစ် | စိမ့်စမ်းရေ |
| ၁၇။ | ရေရရှိရာနှင့်အကွာအဝေး | |
| ၁၈။ | မိလ္လာနှင့်ရေဆိုးစနစ် | ယင်လုံ ရေလောင်း မိလ္လာ |
| ၁၉။ | အိမ်မွေးတိရစ္ဆာန် | ကြောင် (၁) |
| ၂၀။ | နေ့စဉ်ဈေးဝယ်မှု | ရွာဈေး |
| ၂၁။ | မိသားစုတွင်ဖြစ်ပွားတတ်သောရောဂါများ | မရှိ |
| ၂၂။ | မိသားစုတွင်ဖြစ်ပွားတတ်သောအရေအတွက် | မရှိ |
| ၂၃။ | ကုသမှု | – |
| ၂၄။ | အိမ်အနီးအနားရှိ | – |
| ၂၅။ | ဆေးခန်းနှင့်အိမ်နှင့်အကွာအဝေး | ၁ မိုင်ခန့် |
| ၂၆။ | ကျေးရွာ/လုပ်ကွက်မှဆေးခန်းသို့ | ၁ မိုင်ခန့် |

